# COMPANION

TO THE

# TEXT-BOOK COMMITTEE'S BURMESE GRAMMAR.

---

အစိုးရပြဋ္ဌာန်းသည့်

## ကျောင်းသုံးမြန်မာသဒ္ဒါအဖွင့်။

---

*Approved by the Text-Book Committee.*

---

RANGOON:

THE BRITISH BURMA PRESS.

1900.

*Price 10 Annas.* အဘိုး ၁၀ ပဲ။

# ကျောင်းသုံးမြန်မာသဒ္ဒါအဖွင့်။

## အခန်း—၁

### နာမ်။

၁။ ဧကဝိဓနာမ်နှင့်ဝေါဟာရနာမ်။

---

ဧကဝိဓ နာမ် နှင့် ဝေါဟာရ နာမ်တို့၏ အနက် အဓိပ္ပါယ်များကိုကြည့်လေ။ (ကျောင်းသုံးမြန်မာသဒ္ဒါစာမျက်နှာ ၂၃၊ ၂၄)။ထိုအနက်အဓိပ္ပါယ်များအပြင်၊ ၎င်းနာမ်များနှင့်ဆိုင်ရာအောက်ပါအကြောင်းများကို သိရန်လိုသေးသည်။

ဧကဝိဓနာမ်သည်အဓိပ္ပါယ်ရှိသောပုဒ်မဟုတ်၊ လူတယောက်နှင့်တယောက်၊ အရာတခုနှင့်တခုကိုခြားနားရန်သုံးသောအမည်သာဖြစ်သည်။ မောင်ပိုင်း၊ မောင်ဖြူဟူသောအမည်များ၌ အဓိပ္ပါယ်စိုးစည်းမျှမရှိချေ။ ဝေါဟာရနာမ်မူကား၊ အဓိပ္ပါယ်နှင့်ပြည့်စုံသောအမည်ဖြစ်သည်။ မြစ်ဟုဆိုခဲ့လျှင်၊ ၎င်း၏အစဖြစ်သောတောင်၊ သို့မဟုတ်အင်းအိုင်၊ စီးသောရေအလျဉ်၊ တဘက်တချက်၌ ရှိသောကမ်း၊ စီးဝင်ရာ ဖြစ်သော ပင်လယ်များကို ကျွန်ုပ်တို့၏ဉာဏ်မျက်စိ၌ တပြိုင်နက်တည်းမြင်ရသည်။

## ၂။ သမူဟနာမ်။

သမူဟနာမ်၏အဓိပ္ပါယ်ကိုကြည့်လေ (စာမျက်နှာ ၂၄)။ကျောင်းသုံးမြန်မာသဒ္ဒါစာမျက်နှာ ၂၆တွင်၊ သမူဟနာမ်သည်နပုလ္လိင်ဖြစ်သည်ဟုရေးသားလျက်ရှိသည်။ ၎င်းအကြောင်းကိုစဉ်းစားအံ့။ ပရိသတ်ဆိုသည့်စကားအဘယ်နည်းဟုမေးသော်၊ပရိသတ်သည်လူမဟုတ်၊အစုတခုသာ ဖြစ်သည်ဟု ဆိုရာသည်၎င်းအစု၌ သက်ရှိသတ္တဝါလူတို့ပါသည်မှန်၏၊ သို့သော်လည်း ၎င်းလူတို့သည်အသီးအခြားမနေဘဲ၊စုရုံးကြသောအခါ၊ ၎င်းတို့၏ အသွင်အပြင်တို့သည် မထင်မရှား ဖြစ်လာ သောကြောင့်၊သက်မဲ့အရာကြီးတခုနှင့်သာတူသည်။၍ကဲ့သို့ဖြစ်ပွားလာသော အစု၌ အပါအဝင် ဖြစ်သောသက်ရှိသတ္တဝါတို့သည်မထင်ရှား၍၊ အစုကိုအစုကဲ့သို့ သာစဉ်းစားနိုင်သောကြောင့်၊ သမူဟ နာမ်သည် နပုလ္လိင်ဖြစ်သည်ဟုဆိုသည်။

---

## ၃။ ဒဗ္ဗနာမ်။

ဒဗ္ဗနာမ်၏ အဓိပ္ပါယ်ကို သဒ္ဒါစာအုပ် မျက်နှာ ၂၅ တွင်ကြည့်လေ။ ဒဗ္ဗနာမ်သည်အလွန်ပြန့်ပွားသောအမည်ဖြစ်သည်။ဥပမာကား။ ကျွန်ုပ်တို့မျက်မှောက်တွင်ရှိသောဆားကိုဖြစ်စေ၊တကမ္ဘာလုံး၌ရှိသောဆားကိုဖြစ်

စေ။ ဗဟုဝစ်ကိန်းလက္ခဏာကိုမသုံးဘဲ၊ ဆားဟူ၍သာ ခေါ်ဝေါ်မြဲဖြစ်သည်။

အဓိပ္ပါယ်ကား။ ဤကမ္ဘာမြေကြီးကိုပတ်လည်ဝိုင်း ထားသောလေဝါယောခါတ်ကို ထာသံလျက်နှင့် ခုတ် ဖြတ်ပိုင်းခြားခြင်းငှါမတတ်နိုင်သကဲ့သို့။ ထိုအတူလည်း ကောင်း ဒဗ္ဗနာမ် ဖြစ်သော အမည်ကို မခွဲနိုင်ချေ။ ထို ကြောင့်ဒဗ္ဗနာမ်ဟုတ်ရိုးမှန်ခဲ့လျှင်၊ ဗဟုဝစ်ကိန်း လက္ခ ဏာနှင့်သော်လည်းကောင်း၊ မူလသင်္ချာနာမဝိသေသန နှင့်သော်လည်းကောင်းမသုံးနိုင်ချေ။

မှတ်ရန်။ ဒဗ္ဗနာမ်တခုကိုဗဟုဝစ်ကိန်းလက္ခဏာ သို့မဟုတ်မူလသင်္ချာနာမဝိသေသနနှင့်ပူးတွဲ၍သုံးလျှင်၊ ၎င်းဒဗ္ဗနာမ်သည်ဝေါဟာရနာမ်ဖြစ်သည်။

အောက်ပါအကြောင်းများအနက်အကြောင်းတခုခု ကိုဘော်ပြလိုမှသာဒဗ္ဗနာမ်ကို ဝေါဟာရနာမ်ကဲ့သို့သုံး နိုင်သည်။

က။ အမျိုးအစားကိုခွဲ၍ပြလိုသောအကြောင်း။

ဥဒါဟရဏ်ကား။

ရေ……………ဒဗ္ဗနာမ်။
ရေများ……………ဝေါဟာရနာမ်(ရေချို၊ ရေငန်)
ဆန်……………ဒဗ္ဗနာမ်။
ဆန်သုံးမျိုး……………ဝေါဟာရနာမ်။

ခ။ ဒွန္ဒနာမ်အားဖြင့်ဘော်ပြအပ်သော ဝတ္ထုနှင့် လုပ်ချရသောပစ္စည်းဥစ္စာများကိုဘော်ပြလိုသည့်အခါ တကြောင်း။

ဥဒါဟရဏ်ကား။

ရွှေ........................ဒွန္ဒနာမ်။

ရွှေများ.................ဝေါဟာရနာမ်(လက်ကောက် လက်စွပ်)

---

ဂ။ အရေအတွက်အလေးအချိန်ကိုဘော်ပြရန်တကြောင်း။

ဥဒါဟရဏ်ကား။

ရေ..............................ဒွန္ဒနာမ်။

ရေနှစ်ခွက်................ဝေါဟာရနာမ်။

၄။ စိတ္တဇနာမ်။

စိတ္တဇနာမ်သည် စိတ်၌ အသီးအခြား ထင်ရှားဖြစ်လာသောအရာ၏အမည်ဖြစ်သည်။ ဥဒါဟရဏ်ကား။ ပညာ၊ မေတ္တာ၊ လက္ခဏာ၊ ဖြူခြင်း။စိတ္တဇနာမ်၏အနက်အဓိပ္ပါယ်ကို နားလည်အောင်စည်းစားအံ့။ နီသောပန်းပွင့်တပွင့်သည် ကျွန်ုပ်တို့မျက်မှောက်တွင်ရှိနေစဉ်အခါ၊ ထိုပန်းသည်အခြားပန်းများနှင့်မတူ၊ နီသောလက္ခဏာ

ရှိသည့်ကိုကျွန်ုပ်တို့၏ အပမျက်စိအင်္ဂါဖြင့် ထင်ရှားစွာ မြင်ရသိရ၏။ ထိုပန်းသည် ကွယ်ရာသို့ရောက်၍၊ ၎င်းကို ကျွန်ုပ်တို့မမြင်ရသော်လည်း။ ၎င်း၏ နီသောလက္ခဏာ ကိုကျွန်ုပ်တို့၏ ဉာဏ်မျက်စိတွင် မြင်ရသေးသဖြင့်၊ ပန်း ကိုပမာဏမပြုဘဲ၊ နီခြင်းသည်အလွန်လှသောအရောင် ပေတည်းဟုဆိုနိုင်ကြ၏။ ဤကဲ့သို့ဆိုရာ၌ နီခြင်းဟူသော လက္ခဏာကိုကျွန်ုပ်တို့သည် နီသောပန်းက ထုတ်ဆောင် ၍ထင်ရှားသောအရာအသီးအခြား တခုကဲ့သို့စည်းစား ကြသည်။

---

၅။ ကြိယာမှဖြစ်သော နာမ်ကိုကြိယာနာမ်၊ သို့မ ဟုတ် ကိတ်နာမ်ဟုခေါ်သည် (စာမျက်နှာ ၂၄) ဥဒါဟ ရဏ်ကား။ ပြေးခြင်း၊ သွားခြင်း၊ အနေအထိုင်။

ကိတ်နာမ်သည် ဝိဂ္ဂဟနာမ် ပင်ဖြစ်သည်။ အဘယ် ကြောင့်နည်းဆိုသော်၊ စိတ်၌သာဖြစ်သော အရာ၏အ မည်ဖြစ်သောကြောင့်တည်း။

အခဝတ်အစားဆိုသော ပုဒ်သည်စိတ်၌ ဖြစ်သောအ ရာ၏အမည်မဟုတ်သောကြောင့်၊ ဝိဂ္ဂဟနာမ်မဟုတ်ချေ။

---

၆။ ကိတ်နာမ်နှင့်ဝိဂ္ဂဟနာမ်တို့၏ခြားနားခြင်းအ ချက်များ။

က။ ပညာ၊ လုံ့လ၊ လက္ခဏာ၊ သီလ၊ အစရှိသော ဝိဂ္ဂဇနာမ်တို့သည်အခြားဝါစင်္ဂများကဖြစ်ပွားသည်မဟုတ်။ မူလရင်းကပင်နာမ်များဖြစ်ကြသည်။

ဝခြင်း၊ ဖူခြင်း၊ အတတ်၊ အစရှိသော နာမ်များမှာမူကား၊ မူလအစကနာမ်များမဟုတ်၊ ကြိယာသို့မဟုတ်နာမဝိသေသနများကဖြစ်ပွားလာကြသည်။

---

ခ။ ဝိဂ္ဂဇနာမ်သည်ဂုဏ်၊ သို့မဟုတ် လက္ခဏာတခုခု၏အမည်ဖြစ်သည်။ဥဒါဟရဏ်ကား၊ ပညာ၊ပါရမီ၊ သီလ။

ကိတ်နာမ် မူကား ပြုခြင်း၊ ဖြစ်ခြင်း၏ အမည် ဖြစ်သည်။ဥဒါဟရဏ်ကား။သွားခြင်း၊ အထောက်အပံ့၊ အနေအထိုင်၊ရှိခြင်း။

---

ဂ။ ကိတ်နာမ်သည်ကြိယာမှဖြစ်လာသောကြောင့်။ ၎င်းမှာကံရှိနိုင်သည်။ ဥဒါဟရဏ်ကား။ ထမင်းကိုစားခြင်းသည်ကောင်း၏။

ဝိဂ္ဂဇနာမ်မူကားနာမ်စင်စစ်ဖြင့်လေသောကြောင့်။ ကံမရှိနိုင်ချေ။

မှတ်ရန်။ နာမ်တခုသည် ဝိဂ္ဂဇနာမ် ဟုတ်ရိုးမှန်လျှင်၊၎င်းကိုဗဟုဝစ်ကိန်းဖြင့်သာသုံးနိုင်သည်။ ဗဟုဝုစ်

ကိန်းလက္ခဏာ၊ သို့မဟုတ်မူလသင်္ချာ နာမဝိသေသန နှင့် တွဲသုံးခဲ့သော် ဝေါဟာရနာမ်ဖြစ်၏။ ဥဒါဟရုဏ်ကား။ ပါရမီဆိုသောစဗ္ဗနာမ်သည် အလွန်ပြန့်ပွားသောအမည်ဖြစ်သည်။ပါရမီဆယ်ပါးဟုဆိုလျှင်၊၎င်း ပြန့်ပွားသော အမည်ကြီးတွင် အပါအဝင် ဖြစ်သောအပိုင်းငယ်များကိုအရာတခုစီဖြစ်သကဲ့သို့ စည် စားကုန်မြဲတည်း။ထိုကြောင့်ပါရမီဆိုသောပုဒ်သည်ဤအချက်၌ ဝေါဟာရနာမ်ဖြစ်သည်။

---

## လေ့ကျင်ခဏ်း ၁။

### အောက်၌ပါရှိသောနာမ်များ၏အမျိုး ကိုဖော်ပြလော့။

ဤကမ္ဘာမြေကြီးသည်ကြီးကျယ်၏—နေသည်နေ့အခါထွန်းလင်း၍၊လသည်ညည့်အခါသာ၏—မောင်သည်မုန့်ကို လိုသောကြောင့် ငိုသည်—ဆန်အနည်းငယ် ပေးပါ—မင်း ညီ သည် အသင်းနှင့် ဆိုင်သနည်း—သိုးရသည် လယ်ထဲ၌ရှိသည်—မြန်မာပြည်ကဆန်များကိုအခြားနိုင်ငံများသို့ ပို့ကြသည်—ကျွန်ုပ်အားပန်းတပွင့်ပေးပါ—ဤသစ်ပင်က ငှက်အုပ်သည် ပျံသွားပြီ—လယ်ပြင်ကငှက်အုပ်များသည် ပျံသွားကြပြီ—ဤ ကြက်သားအုပ်မကို မြင် သလော—ထမင်း

စား ခြင်း သည် ကောင်း ၏—သူသည် ခွန်အား နှင့် ပြည့်စုံသည်—ကျွန်ုပ် အိမ်၌ အစား အသောက် ပေါသည်—မည်သည်ပုဆိုးကိုယူခဲ့ ရမည်နည်း။ အနီကို ယူခဲ့ပါ—မောင်စိန်းသည်ပညာ ရအောင် အားထုတ်ခြင်းကိုပြု၏—ဤမြို့ကြီးသည်အသံဆယ်ပါးနှင့်သာယာစွာရှိ၏—ရေကိုသောက်ပါ—ထိုသူတောင်းစားအားရေတခွက်ပေးလေ—လူကောင်းသည် အလုပ်အကိုင်၌မွေ့လျော်၏—ကြံပင်ကသကာကိုရသည်—နို့ အနည်း ငယ် ပေးပါ—ဤအိမ် ကို သစ်နှင့် လုပ်သည်—ဤသစ် များသည် အလွန် မာ၏—သစ်နှစ်လုံးယူခဲ့ပါ—ရွှေသည် ဝါ၏—သင့်ရွှေများကို မြှုပ်ထားလော့—သံသည် သတ္တုဖြစ်သည်—သံများကို ယူခဲ့ပါ—မောင်ညိုမှာသီသရှိ၏—ကျွန်ုပ်သည် သီလငါးပါးကို ဆောက်တည်ပါသည်။

---

## ပုစ္ဆာများ။

၁။ ဝေါဟာရနာမ်နှင့် ဒဗ္ဗနာမ်တို့၏ တူသောအချက်၊ ၎င်းဖြင်ခြားနားသောအချက်များကိုဘော်ပြလေ။

၂။ မည် သည့် အချက် များကို ထောက်မှ သာလျှင်၊ နာမ်တခုသည်ဒဗ္ဗနာမ်ဖြစ်သည် ဟု တပ်ရာသေချာဆိုနိုင်သနည်း။

၃။ မည်သည့်နာမ်များကို ဇေကရစ် ကိန်း၌ သာ သုံးသနည်း။

၄။ ဒဗ္ဗနာမ်ကို အဘယ်အကြောင်းကြောင့်ဗဟု ဝုစ်ကိန်းလက္ခဏာ နှင့်သော်လည်းကောင်း၊မူလသင်္ချာ နာမ ဝိသေသန နှင့်သော်လည်း ကောင်း ဖူးတွဲ၍ သုံး သနည်း။

၅။ ဝိဘတ္တိနာမ်သည် ကိတ်နာမ် နှင့် အဘယ်အ ချက်များ၌ခြား နားသနည်း။

---

၇။ ကာရကဏ်အကြောင်း။

နာမ်သို့မဟုတ်နာမ်စားတခုသည်အခြားဝါစင်္ကတခု ခုနှင့်မည်ကဲ့သို့စပ်ဆိုင်ကြောင်းကိုပြသောအရာသည် ကာရကမည်၏။၎င်းအနက်အဓိပ္ပါယ်ကိုကောင်းမွန်စွာ နားလည်အောင်၊ဥပမာဆောင်အံ့။

---

အခြားစကားတရပ်ကိုမျှသုံးဘဲ၊ နာမ်တခုနောက် တွင်ကြိယာကို ထားအံ့။

(က) ခွေး..................ကိုက် သည်။

ခွေး၊ကိုက်သည်၊ ဤပုဒ်နှစ်ပုဒ်တို့သည် မည်ကဲ့သို့

မှုမဆက်မစပ်ချေ။ခွေးသည်ကိုက်ခြင်း အပြုအမူကိုပြု သည်၊သို့မဟုတ်အကိုက်ကိုခံရသည်ဟူ၍မသိနိုင်ချေ။

(ခ) ခွေးသည်ကိုက်သည်။

နာမ်နှင့်ကြိယာစပ်ကြား၌သည်ဆိုသော လက္ခဏာ ကိုထည့်သွင်းသောအခါ၊၎င်းပုဒ်နှစ်ပုဒ်တို့သည်ဆက် မိကြသဖြင့်၊စပ်ဆိုင်ကြ၏။ဤအချက်၌ခွေးသည် ကိုက် ခြင်းအမှုကို ပြုသောသတ္တဝါဖြစ်ကြောင်း ကို တစ်ရာ သေချာသိရသည်။ ထို့ကြောင့် သည်ကို ကာရကလက္ခ ဏာ၊သို့မဟုတ်ဝိဘတ်ဟုခေါ်သည်၊

(ဂ) ခွေးကိုကိုက်သည်။

ဤအချက်၌၊ ကိုဆိုသော ဝိဘတ်ကို ထည့်သွင်းသ ဖြင့်၊၎င်းနာမ်နှင့်ကြိယာတို့သည်တနည်း သက်ဆိုင်ပြန် ၏။ခွေးသည် ဤအချက်၌ ကိုက်ခြင်းအပြုအမူ ကိုခံရ သည်ဟုကိုဆိုသောဝိဘတ်ဖြင့်သိရသည်။

---

## အခန်း—၂

### နာမဝိသေသန။

### ၁။ အဓိပ္ပါယ်ဘော်ပြချက်။

နာမ ဝိသေသနသည် နာမ်၏ သက် ဆိုင်ခြင်း ကို ကျဉ်းစေ၍၊၎င်း၏အဓိပ္ပါယ်ကိုလည်းအထူးပြုသည်။

### ၅။ အဓိပ္ပါယ်ကိုရှင်းလင်းအံ့။

ခွေးဆိုသောပုဒ်သည် ဝေါဟာရနာမ်ဖြစ်၍၊ ကမ္ဘာပေါ်၌မည်သည့် ခွေးနှင့်မဆို ဆိုင်သောအမည် ဖြစ်သည်။ ၎င်းအမည်အားဖြင့်ဖော်ပြသော သတ္တဝါသည် ခြေလေးချောင်း သတ္တဝါ ဖြစ် ကြောင်းကို သာသိရသည်။ ၎င်းသတ္တဝါနှင့်စပ်၍ အခြားအကျိုးအကြောင်း တစုံတခုကိုမျှမသိရချေ။ ၎င်းခွေးသည် ဖြူသည်၊ မည်းသည်၊ သို့မဟုတ်ကြီးသည်ဟူ၍ ညွှန်ပြ၍ မဆိုနိုင်ချေ။ သို့သော်မည်းသောခွေးဟုဆိုသောအခါ။ ခွေးဆိုသော အမည်သည်ခွေးတိုင်းနှင့်မဆိုင်ပြီ၊ မည်းသောဂုဏ်ရှိသောခွေးများနှင့်သာဆိုင်တော့သည်။ ထို့ကြောင့်နာမဝိသေသနသည်နာမ်၏သက်ဆိုင်းခြင်းကိုကျဉ်းစေသည်ဟုဆိုသည်။ ထို့ပြင်တပါးမည်းသောခွေးဟုဆိုလျှင်၊ ခွေးနှင့်ဆိုင်ရာ အကြောင်း တစုံတခု သည် ပေါ် ထွန်းလာသည်။ ထို့ကြောင့်နာမဝိသေသနသည်နာမ်၏အဓိပ္ပါယ်ကိုအထူးပြုသည်ဟု ဆိုသည်။

---

### ၆။ နာမဝိသေသနတို့ကိုပိုင်းခြားခြင်း။

ကျောင်းသုံး မြန်မာ သဒ္ဒါ၌ နာမ ဝိသေသန တို့ကို အောက်ပါအတိုင်းပိုင်းခြားလျက် ထားသည်။

- နာမဝိသေသန။
  - ဂုဏ။
  - ပမာဏ။
    - ရာသိ။
    - သင်္ချာ။
      - ပဌာန။
        - မူလ။
        - အနုက္ကမ။
      - အပဌာန။
      - ဝိဘာဂ။
  - နာမ်စား။
    - နိဒဿန။
    - ပုစ္ဆာ။
    - အပဌာန။
    - အပဌာနသမာသ်။

၁၀။ ရာသိနာမဝိသေသနနှင့်သင်္ချာ နာမဝိသေသနတို့ကိုခြားနားခြင်း။

---

(က) ရာသိနာမဝိသေသနသည်အလုံးအစုနှင့် သာဆိုင်သည်ဖြစ်၍။ ရေတွက်ခြင်းငှါမသင့် သုံးနိုင်သော နာမ်နှင့်သာသုံးနိုင်သည်။

ရေတွက်ခြင်းငှါမသင့် သုံးနိုင်သော နာမ်များကား ဒြဗ္ဗနာမ်နှင့်ဝိဇ္ဇာဖနာမ်များဖြစ်ကြသည်။

ဥဒါဟရုဏ်ကား။

ဆန်အနည်းငယ်။ ရေများစွာ။

ခွန်အားအနည်းငယ်။ ပညာစိုးစည်း။

(ခ) သမ္ဗန္ဓနာမဝိသေသန မှုကား၊ အရေအတွက်နှင့်ဆိုင်သောကြောင့်၊ ကေဝုဇစ်ကိန်း၊ ဗဟုဝုစ်ကိန်းနှစ်ကိန်းလုံး၌ ပင် သုံးနိုင်သော နာမ်များနှင့် သာသုံးသည်။ ၎င်းနာမ်များကား၊ ဝေါဟာရ နာမ်နှင့် သမူဟနာမ်များဖြစ်ကြသည်။

ဥဒါဟရဏ်ကား။

လူအနည်းငယ်။ အချို့သောတပ်များ။

---

လေ့ကျင့်ခန်း ၂။

အောက်၌ရာသိနာမဝိသေသနများနှင့်အပဋ္ဌာနသမ္ဗန္ဓနာမဝိသေသနပုဒ်များကိုတော်ပြလော။

ဆန်အနည်းငယ် ယူခဲ့ပါ—သစ်ပင်ပေါ်၌ရှက်အနည်းငယ်ရှိသည်။—များစွာသော လူတို့သည်လာကြ၏။—အိုင်၌ရေများစွာရှိသည်။—ထမင်း ရိုးစည်းစားပါ—သူ၌ပညာ စိုးစည်း သာ ရှိသည်—လူစိုးစည်းသာသေသည်—ဆားအလုံးကိုယူခဲ့ပါ။ အလုံးစုံသောမြင်းတပ်တို့သည်ထွက်ပြေးကြသည်—လူ အလုံးကိုခေါ်ခဲ့ပါ—အချို့သော အရှက်အကြောက်ကို သိမ်းရမည်—ခွေး အချို့ တို့ကား လိမ္မာ၏—ရေနည်းနည်းပေးပါ—ကျွန်ုပ်မှာ နို့ အနည်းငယ်မျှမရှိပါ—ခပ်သိမ်း

သောအရာများ၌ သတိထားရမည်—လူတကာ တို့၏ ဥစ္စာကို ခိုးသင့်—မိုယ်း အနည်းငယ်မျှ မရှာ သော ကြောင့်၊ ပြည်သူပြည်သား အများ ဒုက္ခ ရောက် ကြ သည်။

---

၁၁။ နာမ်စားနာမဝိသေသနအကြောင်း။

နာမဝိသေသနပုဒ်တခုကိုအဘယ်ကြောင့် နာမ်စား နာမဝိသေသနခေါ်သနည်း ဟူငြားအံ့၊ ၎င်းနာမဝိသေ သနသည်ပုဒ်ရင်းဖြစ်သောနာမ်စားကိုမှီ၍ဖြစ်လာသော ကြောင့်တည်း။

ဥပမာကား။

က (၁) ထို ကိုထောက်၍ပြုကျင့်ရာသည်။

(၂) ဤကား ရှေးဦးစွာသော မြေလှုပ်ခြင်း တည်း။

(၃) အဘယ်ကိုလိုသနည်း။

(၄) မည်သည့်ကိုမျှမလိုပါ။

အထက်၌ချည်းသားလျက်ရှိသော စကားတို့သည် နာမ်စားစင်စစ်ဖြစ်ကြောင်းထင်ရှားသည်။

ခ။ (၁) ထိုခွေးကိုမရိုက်နှင့်။

(၂) ဤလူကလေးကိုခေါ်သွား။

(၃) အဘယ်စာအရုပ်လိုသနည်း။

(၄) မည်သည့်စာအရုပ်ကိုမျှမလိုပါ။

ဤအချက်၌မျည်းသားလျက်ရှိသောစကားတို့ကား နာမ်များ၏အဓိပ္ပါယ်ကိုအထူးပြုသောကြောင့်၊ နာမဝိသေသနများဖြစ်ကြသည်။

ရှေးဦးစွာနာမ်စားများ ဖြစ်သော ဤ၊ ထို၊ အဘယ် မည်သည် တို့သည်၊ ဤအချက် တွင် နာမ ဝိသေသန လက္ခဏာသောနှင့်ယှဉ်ဘဲ၊ နာမဝိသေသနများကဲ့သို့ ပင်သုံးသောကြောင့်၊ ၎င်းပုဒ်များကို နာမ်စားနာမဝိသေသနများဟုခေါ်သည်။

ထိုကြောင့်နာမ်စားနာမဝိသေသနသည် နာမ်စားမှ ဖြစ်သောပုဒ်ဖြစ်သည်။

---

လေ့ကျင့်ခန်း ၃။

အောက်၌ရှိသောပဌာနသဒ္ဒါနာမဝိသေသနနှင့်အပဌာနသဒ္ဒါနာမဝိသေသန ပုဒ်များကိုဘော်ပြလေ။

လူတယောက် လာသည်—လူတစုံ တယောက်ကို ခေါ်လိုက်—ခွေး တကောင်ရှိသည်—လူ တယောက်

တလေသာလာတတ်သည်—ကျွန်ုပ်တို့ရွာ၌ကုန်သည်တဦးတယောက်မျှမရှိပါ။—ကုန်သည် လေးဦးတို့ကိုတွေ့ လိုက်သည်—လူအပေါင်း တို့သည်ကျန်းမာ၏လော—အခြားသောစာအုပ်များကို ယူခဲ့ပါ—လူတယောက်သာ လာ သည်—လူတယောက်မျှ မလာ—ကျောင်းမှာ ဆရာ တဦး တယောက် မျှမရှိ—အိမ်တဆောင်လုံးမီးလောင်သွားသည်—ခရီးသည်ရွာတရွာသို့ရောက်လေ၏—တောတတောလုံးပဲ့တင် ထပ်လေ၏။

---

၁၂။ အပဋ္ဌာန်နာမ်စားနာမဝိသေသနအကြောင်း။

နိဒဿနနာမ်စား နာမဝိသေ သနသည် နာမ်အားဖြင့်ဘော်ပြသောအရာများကိုတိုက်ရိုက်ညွှန်ပြသည်။

ဥဒါဟရုဏ်ကား။ ဤအိမ်ကိုကြည့်လော့။

အပဋ္ဌာန်နာမ်စားနာမဝိသေသနများ၌မူကား ညွှန်ပြခြင်းသဘောပါဝင် သော်လည်း၊ ၎င်းညွှန်ပြခြင်းအမှုကိုတိုက်ရိုက်မလုပ်ချေ။

ဥဒါဟရုဏ်ကား။

က အဘယ် စာအုပ်ကိုမျှမလို။

ခ အကြင် တရားသည်မှန်၏။ ထိုတရားကိုစောင့်ရှောက်လော့။

၁၃။ အပဌ နနာမ်စားနာမဝိသေသနကို (က) ပဒိုသေဝေါကျ များ၌ ၎င်းပြင် (ခ) အနုဿောမ ဝေါကျ များ၌လည်းသုံးသည်။

(က) ပဒိုသေဝေါကျ၌သုံးကြောင်း။

ပဌမနာမ်စားနာမဝိသေသန များကို မေးမြန်းရာ၌ မသုံးဘဲ၊ ပဒိုသေဝေါကျ၌ထည့်သုံးလျှင်၊ ၎င်းတို့သည် မသေချာသောအနက်အဓိပ္ပါယ်ကိုရ၍၊ အပဌာနနာမ်စားနာမဝိသေသနများဖြစ်ကြသည်။

ဥဒါဟရဏ်ကား။

(၁) အဘယ် စာအုပ်ကိုလိုသနည်း·········ပုစ္ဆာ

(၂) အဘယ်စာအုပ်ကို မျှမလို·········အပဌာန

မှတ်ရန်။ ။မျှသည်အဓိပ္ပါယ်ကိုလေးနက်စေသောကြိယာဝိသေသနဖြစ်သည်။

အပဌာနနာမ်စားနာမဝိသေသနနှင့်ခွဲ၍ သော်၎င်း။ ပူးတွဲ၍သော်၎င်းရှာတွက်နိုင်သည်။

---

(ခ) အနုဿောမဝေါကျ၌သုံးကြောင်း။

ဥဒါဟရဏ်ကား။

အကြင် တရားသည်မှန်၏။ထို တရားကိုစောင့်ရှောက်လော့။

အကြင် ဆိုသောပုဒ်သည် တရား တခုခုကို ညွှန်ပြသော်လည်း၊ အဘယ်တရား ဖြစ်သည်ကို တပ်ရာသေချာမသိရချေ။ ထိုကြောင့် အကြင် သည်အပဋ္ဌာန နာမ်စားနာမဝိသေသနဖြစ်သည်။

မှတ်ရန်။ အကြင်ဆိုသောပုဒ်အစား၊ တစုံတခု၊ တစုံတယောက်၊ စသောအပဋ္ဌာန သင်္ချာနာမဝိသေသနများကိုလည်းသုံးလေ့ရှိသည်။

ဥဒါဟရုဏ်ကား။

တစုံတယောက် သော သူသည် ငါ့ကိုကျွန်လုပ်လိုသည်ဟုဆိုအံ့။ ထိုသူအား ကျွန်လုပ်တော့ဟုဆို၍ ငါ့ကိုယ်ကိုထိုသူအားပေးအံ့သတည်း။

---

၁၄။ အပဋ္ဌာနသမာသ်နာမ်စားနာမဝိသေသနအကြောင်း။

နာမ်တခု၏ရှေ့က အပဋ္ဌာန နာမ်စား နာမဝိသေသနကိုထည့်၍၊ ၎င်းနာမ်နောက်က ဆို ဟူသော ကြိယာကိုထားသောအခါ၊ နာမဝိသေသနနှင့်ကြိယာတို့သည်။ ပုဒ်တခုတည်းဖြစ်သည်ဟု မှတ်ယူပြီးလျှင်၊ နာမဝိသေသနတခုတည်းကဲ့သို့ရုပ်တွက်ရမည်။

ဥဒါဟရုဏ်ကား။

မည်သည့်စာအုပ်ကိုမဆိုယူပါ။

(မည်သည့်..........မဆို)အပဋ္ဌာနသမာသ်နာမ်စားနာမဝိသေသန။

---

လေ့ကျင့်ခဏ်း ၄။

အောက်၌ရှိသောနာမဝိသေသနများတွင်၊ နိဒသသန၊ ပုစ္ဆာ၊အပဋ္ဌာနနာမ်စား၊အပဋ္ဌာန သမာသ်နာမ်စားနာမဝိသေသနများကိုဘော်ပြလေ။

ထိုအိမ်တွင်ရှိသောမြင်းများအနက်၊ အဘယ်မြင်းကိုအလိုရှိသနည်း—အဘယ်မြင်းကိုမျှမကြိုက်ပါ—ဤနေရာ၌လူအိုတယောက် ရှိသည်၊ ၎င်းလူ့အိုး၌ကား တစုံတခုသောအဖြစ် မည်သည်ရှိ—ဤတောအရပ်၌ လူမည်သည်ကိုမမြင်းဘူးပါ—အဘယ်စာအုပ်ကိုယူရမည်နည်း—အဘယ် စာအုပ်ကို မင်းကြိုက် ရာယူလော့—မည်သည်နေရာသို့သွား ရမည်နည်း—မည်သည့်စာအုပ်ကိုမျှမယူနှင့်—အကြင်သူသည် မိဘတို့ကိုမြတ်နိုး၏။ ထိုသူသည် ဤကမ္ဘာပေါ်၌အသက်ရှည်လတံ့။

## လေ့ကျင့်ခန်း ၅။

အောက်၌မျဉ်းသားထားသောနာမဝိသေသနများသည်မည်သည့်အမျိုး၌ ပါဝင်သနည်း။

သတိပြုရန်အချက်များ။

(၁) နာမဝိသေသနအထူးပြုသောနာမ်ကိုကြည့်လေ။

(၂) နာမ်၏အဓိပ္ပါယ်ကိုအထူးပြုသောပုဒ်သည် နာမဝိသေသနချည်းဖြစ်သည်၊ သို့မဟုတ် နာမ်စား နာမဝိသေသနဖြစ်သည်၊ မဖြစ်သည်ကိုကြည့်ရမည်။

(၃) နာမဝိ သေသန ပါဝင်သော ဝါကျ သည် ပုစ္ဆာ နှင့်ဆိုင်သောဝါကျဖြစ်သည်၊ သို့မဟုတ် ပနိသော ဓဝါကျဖြစ်သည်၊ သို့ တည်းမဟုတ် အနှုလော မဝါကျ ဖြစ်သည်မဖြစ်သည်ကိုစုံထောက်ရမည်။

---

(၁) နှဘ် တကာတို့ကိုအစိုးရသောသိကြားမင်းသည်ဇုသတိဒေဝီအားဆု ဆယ်ပါး ကိုပေး၏။

(၂) ထို မင်းသမီး နှစ် ပါးတို့သည်အခြံအရံ များစွာ နှင့်နန္ဒဝန်ဥယျာဉ်သို့သွားကြလေ၏။

(၃) ဘုရားလောင်းသည်ဘဝ များစွာ ကျင်လည်တော်မူရလေ၏။

(၄) မင်းသမီးကြီးသည်အချို့သော နံ့သာရနံ့ဖြင့်။ မြတ်စွာ ဘုရားအားပူဇော်လေ၏။

(၅) အချို့သော လူတို့ကားငယ်ရွယ်စဉ်ကပင်သေရ ၏။

(၆) ဤဆင်ဖြူတော်သည်ဆင်မည်း တကာ တို့မဆောင်နိုင်သောဝန်ကိုလည်းဆောင်တတ်၏။

(၇) မင်းသမီးသည်စန္ဒကူးနံ့သာရနံ့ဖြင့်တ ကိုယ်လုံးလိမ်းကျံဘိသကဲ့သို့ဘွား၏။

(၈) အကြင်သူ သည် ယာဇ် ပူဇော်၏။ ထို သူအားသာရေးအနှင့်မ သနေသဘေါကုန်အံ့။

(၉) ဘုရားလောင်းသည်အတတ်မျိုး အပေါင်းကိုတတ် သော အခါ တဆယ်ခြောက် နှစ်အရွယ် သို့ရောက်လေ၏။

၁၀။ သင်တို့သည် အဘယ် အရာအထူးရှိသောသူတို့နည်း ။

၁၁။ အလို တော် တစုံတခု ရှိသောကြောင့် ဆိုသည်ဖြစ်မည်။

၁၂။ ဤ ရွှေအိုးထက် ခိုင်လုံသောရွှေအိုး မည်သည် မရှိ။

၁၃။ မယ်တော်ကျွန်ုပ်အလှူပေးအံ့။ ဥစ္စာ တစိုးတစိ မျှရှိပါ၏လော့။

၁၄။ အကြင် အရပ်၌မင်းကြီးဝေဿန္တရာသည် နေ၏။ ထို အရပ် သို့ ငါ ညွှန်ပြအံ့။

၁၅။ အကျွန်ုပ်သည် အဘယ်မည်သောမကောင်းမှုကိုပြုမိသေသည်မသိ။

၁၆။ တစုံတခု သင်ပြု သော မကောင်း မှု မည်သည် မရှိ။

၁၇။ တစုံတယောက်သော သူသည် ငါ၏ နှစ်လုံးသားကိုတောင်းလာအံ့၊ ငါသည်ထားငယ်နှင့်ဖွင့်၍ ထိုသူအားပေးအံ့သတည်း။

၁၈။ သင်၌ငါ့အမျက်ထွက်ရန် အခွင့် တစိုးတစိ မျှမရှိ။

၁၉။ မဒ္ဒီဒေဝီသည် ထိုထိုသောအရပ်တို့၌သား သမီးကိုကြည့်၍မမြင်လျှင်၊ ဤသို့ဆို၏။

## ၁၅။ နာမဝိသေသနတို့ကို နှစ်မျိုးသုံးခြင်း။

(ကျောင်းသုံးမြန်မာသဒ္ဒါစာမျက်နှာ ၅၉ တွင်ကြည့်လေ။)

(၁) နာမ်၏အဓိပ္ပါယ်ကိုအထူးပြုရန်သုံးနည်း။

ဥဒါဟရဏ်ကား။

ကြီးသောသစ်ပင်။ လှသောမြင်း။

(၂) ကြိယာကဲ့သို့သုံးနည်း။

ဥဒါဟရဏ်ကား။

သစ်ပင်သည် ကြီးမား၏။ မြင်းသည် လှသည်။

---

## ၁၆။ ကြိယာကိုနာမဝိသေသနကဲ့သို့ မသုံးနိုင်ကြောင်း။

နာမဝိသေသနကို ကြိယာကဲ့သို့သုံးနိုင် ကြောင်းကို ကျွန်ုပ်တို့သိရပြီ။ သို့သော်ကြိယာကိုမူသည် အခါမျှ နာမဝိသေသနကဲ့သို့မသုံးနိုင်ချေ။ ဤအလွန်ထူးသော အချက်ကိုတပည့်သူငယ်တို့သည် ပမာဏ မပြုသော ကြောင့်၊ ကြိယာတရပ်နောက်က သော ဟူသော လင်္ကာ ရကိုမြင်လျှင်၊ ထိုကြိယာကိုပင်နာမဝိသေသနကဲ့သို့ ရှပ်တွက်လေ့ရှိကြသည်။

ကြိယာကိုနာမဝိသေသနအရာ၌ မသုံးနိုင်ကြောင်း ကိုလည်းစားအံ့။

၁။ အချက်။

(က) စာအုပ်သည်ကျသွားသည်။

(ခ) စာအုပ်ကိုကောက်လိုက်ပါ။

(က) နှင့်(ခ)ကိုမိဿကဝါကျဖြစ်အောင်ဆက် လျှင်၊အောက်၌ရှိသောဝါကျကိုရမည်။

(ဂ) ကျသွားသောစာအုပ်ကိုကောက်လိုက်ပါ။

(ဂ) ဝါကျတွင် ပါဝင်သော ကျသွား ဟူသော ကြိယာမှာကဏ္ဍားမရှိဟူ၍ မဆိုနိုင်ပြီ။

နာမ်က ၃ အစားသုံးနိုင်သည့်အပြင်၊ဝါကျ နှစ်ရပ် ကိုလည်းဆက်သွယ်နိုင်သော သဒ္ဒဓမ္မ သည် မြန်မာ ဘာသာ၌အလျှင်းမရှိ။

စာအုပ်ဆိုသောပုဒ်ကိုနှစ်ခါမဆိုရအောင်တဝါကျ၌ ဖြုပ်၍သုံးရသည်။ထိုကြောင့်ကျသွားဟူသောပုဒ်သည် ကြိယာစင်စစ်ပင်ဖြစ်သည်။

(စာအုပ်) ကျသွားသည်ဟူသောဝါကျကလျှာသည် နာမဝိသေသနဝါကျ ကလျှာ ဖြစ်ကြောင်းကို သော ဆို

သောလကၡဏာဖြင့်သိရသည်။ နိဿိတ သမ္ဗန္ဓတရှ
ကိုမှီ၍သိရသည်မဟုတ်။

---

(က) မောင်ဖြူသည် ကျွန်ုပ်အားမြင်းကိုပေးသည်။

(ခ) မြင်းသည်သေသည်။

(က) နှင့် (ခ) ကိုဆက်လျှင် အောက်၌ ရှိသောဝါ
ကျကိုရမည်။

(ဂ) မောင်ဖြူးအား ကျွန်ုပ်ပေးသော မြင်းသည်
သေပြီ။

(ဂ) ၌မြင်းကို နှစ်ခါမဆိုရအောင်၊ နာမဝိသေသ
နဝါကျကထွေ ၌ဖြုပ်၍သုံးရသည်။

---

## ၂။ အချက်။

ကြိယာကိုနာမဝိသေသနအရာ၌သုံးနိုင် ကြောင်း
ကိုတနည်းအားဖြင့်စည်းစားနိုင်သေးသည်။ ဥပမာကား။
ပြောသောစကားကိုနားထောင်ရမည်။

ပြောသောဟူသောပုဒ်ကိုအကယ်၍ နာမဝိသေသ
နကဲ့သို့ ရှစ်တွက် လျှင် မမှန်ချေ၊ အဘယ်ကြောင့် ဆို

သော်။ ပြောဟူသောပုဒ်ကိုကတ္တားတစုံတခုနှင့် သုံးနိုင်သောကြောင့်တည်း။

ကျွန်ုပ်ပြောသောသို့မဟုတ်လူကြီးပြောသောစကား ဟုဆိုနိုင်သည်။

ပုဒ်တခုသည် နာမ ဝိသေသန ဟုတ် ရိုးမှန် လျှင်၊ ကတ္တားနှင့်တွဲ၍ မည်သည့်အခါမျှသုံးနိုင်မည်မဟုတ်။ ထိုကြောင့်ပြောဟူသောပုဒ်သည်ကြိယါစင်စစ်ဖြစ်သည်။

---

ဥပမာဆောင်ဦးအံ့။

ငါသည်။စေတုတ္တရာပြည်ကို အစိုးရတော်မူသော သိဉ္စည်းမင်းကြီး၏တမန်တော်တည်း။

အထက်၌ မျဉ်းသားလျက်ရှိသော ပုဒ်ကို အလွယ်တကူရှာတွေ့ လိုလျှင်။ ဝါကျကြီး၌ အပါအဝင် ဖြစ်သောဝါကျကလျှာများကိုနှုတ်ယူရမည်။

အထက် ဝါကျကြီးကို ခွဲလျှင်။အောက်၌ရှိသောဝါကျကလျှာများကိုရမည်။

(၁) သိဉ္စည်းမင်းကြီးသည် စေတုတ္တရာပြည်ကို အစိုးရတော်မူသည်။

(၂) ဂါသည်သိဒ္ဓိဥ်းမင်းကြီး၏တပည့်တော်တဦး။
(၁) ဝါကျကိုကြည့်လျှင်။အစိုးရတော် မှုသည် ဆိုသောကြိယာသည်သိဒ္ဓိဥ်းဆိုသော ကတ္တား၏ ကြိယာဖြစ်ကြောင်းကိုထင်ရှားစွာသိရလိမ့်မည်။

---

လေ့ကျင့်ခန်း ၆။

အောက်၌ရှိသောမိဿကဝါကျများ၏အပါအဝင်ဖြစ်သော ဝါကျကဏ္ဍများကို နှုတ်ဘော်၍။ မျဉ်းသားလျက်ထားသောကြိယာများ၏ကတ္တား အသီးအသီးတို့ကိုဘော်ပြလော။

၁။ ဘုရင်တကာတို့စီးထိုက်သော ဆင်ဖြူတော်ကိုသင်တို့အားငါလှူအံ့။

(၂) သင်တို့လျှောက်ကြားကြသော်စကားသည်ပျောက်ပတ်။

(၃) ပြည်မှနှင်ထုတ်ခြင်းသည် ကြီးစွာသောအပြစ်ရှိသောသူကိုသာစီရင်သောဒဏ်ဖြစ်သည်။

(၄) သမ္ဗုဒ္ဓတဉာဏ် ကိုရှာသော ငါသည် အတွင်းအလှူကိုပေးဝံ့သည်။

(၅) ငမိချစ်မညီးဖြစ်သော ဒေ္ဒါဒေဝီအားဘုရားဆောင်းသည်ဤသို့ မှာထားခဲ့၏။

(၆) ယခုဝါ သွားရမည့် တောအုပ်သည် ကလွန်ဝေးသေး၏။

၇။ မြို့တွင်း၌နေကုန်သော လူအပေါင်းတို့သည် အညီအညွတ်စီ ဝေးကြကုန်၏။

၈။ ၎င်းသို့ဝန္ဒ ဆင်းရဲကို ကြောက်လန့်သောအကျွန်ုပ်သည် သဗ္ဗညုတ ဉာဏ်အလိုငှာ ငါ့ထံ သို့လာရောက်သောယာစကာတို့အားပေးလှူစွန့်ကြ၏။

၉။ သင့်ခမည်းတော်၏ စံရာဖြစ်သော ဧတုတ္တရာနေပြည်တော်သည်အလွန် နှစ်လုံးမွေ့လျော် ဘွယ်ရှိ၏။

၁၀။ ပုဏ္ဏားသည် မင်းကြီး ရှိရာ အမှုပ်သို့သွားလေ၏။

---

## အခန်း—၃

### နာမ်စား။

### ၁၇။ ပုဂ္ဂလနာမ်စားအကြောင်း။

ဝါစင်္ဂတခုသည့် နာမ်စား မှန်လျှင် နာမ် တခုခုကို

ညွှန်ပြ၍။၎င်းနာမ်၏အစား သုံးသော စကားလည်းဖြစ်ရမည်။

လူဟုဆိုအပ်သောသက်ရှိ သဏ္ဍာန်ဝါနှင့် ဆိုင်သော နာမ်ကိုညွှန်ပြ၍။ ၎င်း၏အစားသုံးသော ပုဒ်ဟူသ၍ကို ပုဂ္ဂလနာမ်စားဟုခေါ် သည်။

ဥပမာကား။

(က) ထိုကောသားသည် မိမိထမင်းကိုချက်၍မစားတတ်။ မိမိဆိုသောပုဒ်သည်။ အကြောင်းနှင့် စပ်၍ အပြောဆိုခံရသောတောသား (လူ) ကိုညွှန်ပြ၍။၎င်း၏ အစားသုံးသောပုဒ်ဖြစ်သည်။ထိုကြောင့်မိမိသည်ပုဂ္ဂလနာမ်စားဖြစ်သည်။

(ခ) သူငယ်တို့သည်အချင်း ချင်း ရန်ဖြစ် ကြသည်။အချင်းချင်းဆိုသောပုဒ်သည်သူငယ်တို့ဆိုသောနာမ်နှင့် သက်ဆိုင်၍။ ၎င်း၏ အစားသုံးသော ပုဒ်ဖြစ်သည်။ သက်ရှိသဏ္ဍာန်ဝါ လူနှင့် ဆိုင်သောကြောင့် အချင်းချင်း ဆိုသော ပုဒ်သည်ပုဂ္ဂလ နာမ်စားအပိုင်းတွင်ကျသင့်သည်။

---

လေ့ကျင့်ခန်း ၇။

အောက်၌ရှိသော ပုဂ္ဂလနာမ်စားတို့၏ ယောဂနှင့် ကာရကတို့ ဆော်ပြလေ။

(၁) ချစ်သှစွာသောချစ်သွီးကဏေှာ်ဓိန်။ဘခင်ထံ ဤသို့လာလှည့်။ခမည်းတော်၏ဒါနပါရမီကိုချစ်သွီးကူညီ၍ဖြည့်ပါလော့။

(၂) အကျွန်ုပ်ကား ယခုမိမိကိုယ်ကို၌ အစိုးမရချေ။သူလိုက်လိုသည်းလိုက်ပါစေ။ နေရစ်လိုလည်း နေရစ်ပါစေတော့။

၃။ တစုံတယောက်သောသူသည်ငါ့ကိုကျွန်လုပ်လိုသည်ဆိုအံ့။ထိုသူအားကျွန်လုပ် တော့ဟုဆို၍ ကျွန်၏အဖြစ်ဖြင့်ငါ့ကိုယ်ကိုထိုသူအားပေးအံ့။

၄။ ဤအခြင်းအရာကို သင့်ကိုယ်တိုင် မြင်ရသလော။ကျွန်ုပ်ကိုယ်တိုင်မြင်ရပါသည်။

၅။ မဒ္ဒီ ဒေဝီသည် မိမိရတွေ့အံ့ သည်ကိုမသိ။

၆။ လူတို့သည်မိမိတို့အသက်ကို ရှင်စေခြင်းငှာ တဦးကိုတဦးအနိုင်အထက်လုယက်ဖျက်ဆီးကြလေ၏။

၇။ ငါ့သားတော်သွီးတော်တို့ကား အချင်းချင်းဂတိကာဝင်ရှိသည်ဖြစ်ရာ၏။

၈။ ထိုမိန်းမသည်မိမိသားကိုမိမိကိုယ်တိုင်မထိန်း

၉။ သဏ္ဍာဝါတို့မည်သည်ကား။ အေးရောက်သော အခါကိုယ်ကိုသာအလွတ်ကြိုးစားမြဲတည်း။

၁၀။ ကျွန်ုပ်ကိုယ်ကိုကျွန်ုပ်ထုသည်။

၁၁။ ထိုအရာကိုကျွန်ုပ်ကိုယ်တိုင်ထုလိုက်သည်။

၁၂။ မဒ္ဒီဒေဝီသည်မိမိမြင်မက်သော အိပ်မက်၏ အတိုင်းအလုံးစုံကိုပြန်ကြား၏။

၁၃။ ထိုးနန်းနှင့်သင်းထိုက်တန်သလော။

၁၄။ ဤလေးကဲ့ရဲ့ရေးကုသိုလ်ကံမဖွံ့ဖြိုးသွန်းသော သူတို့သည်ကိုယ်အလိုဆန္ဒပြည့်စုံမည်စင်စစ် မှန်လျှင်။ ဖြင်းရှိသည်ဟူ၍ မနေအပ်။

၁၅။ ကျွန်ုပ်တို့သည် အချင်းချင်း ပြောဆို နေကြ မည်။

၁၆။ အကျွန်ုပ်သည် သမ္ဗုဒ္ဓတည်ဘာဏ်အလို၌မိမိ နန်း၌မိမိဥစ္စာကိုယာစကာတို့အားပေးလှူစွန့်ကြ၏။

၁၇။ ထိုတောအရပ်၌ ငြို့ငြို့ငြင်ငြင် ပူပင်ဆင်းရဲ စွာဖြစ်ရသော်လည်းကိုယ်နှင့်လျော်စွာကောင်းမှုတို့ကို ကျွန်ုပ်ပြုပါအံ့။

## ၁၈။ နိဒဿနနာမ်စား။

ပုဂ္ဂလနာမ်စားသည် ရှေ့၌ရှိသောနာမ်ကို ညွှန်ပြ၍ ၎င်း၏ အစားသုံးသောပုဒ်ဖြစ်သည်ကိုသိရပြီ။ ထို့ပြင်တပါးညွှန်ပြသောနာမ်သည်သက်ရှိသတ္တဝါ (လူ) ၏အမည်ဖြစ်ကြောင်းကိုလည်းသိရပြီ။

နိဒဿနနာမ်စားလည်း ပုဂ္ဂလနာမ်စားကဲ့သို့ပင်ရှေ့၌ရှိသောနာမ်း သို့မဟုတ်အချင်းအရာကိုညွှန်ပြ၍ ၎င်း၏ အရာ၌သုံးသောပုဒ်ဖြစ်သည်။ သို့ရာတွင် မူညွှန်ပြသောနာမ်သည် သက်မဲ့အရာ၏ အမည်သာ ဖြစ်နိုင်သည်။

ဥပမာကား။

ကျွန်ုပ်မှာဒူးရင်းသီးနှင့်သရက်သီးတလုံးရှိသည်။ ဤကား မှည့်သည် ထိုကား မမှည့်။

ဤသည်သရက်သီးဆိုသောနာမ်ပုဒ်ကိုညွှန်ပြ၍၎င်းအစားသုံးသောစကားဖြစ်သည်။

ထိုသည်ဒူးရင်းသီးဆိုသောနာမ်ပုဒ်ကိုညွှန်ပြ၍၎င်း၏အစားသုံးသောစကားဖြစ်သည်။

---

## ၁၉။ ပုဂ္ဂလနာမ်စားနှင့်နိဒဿနနာမ်စားတို့ကိုခြား

နားနိုင်လျှင် အောက်၌ရှိသောအကြောင်းကို ကျွန်ုပ်တို့ စည် စားယူနိုင်လိမ့်မည်။

(က) ဤသူကားကျွန်ုပ်၏သားဖြစ်သည်။

ဤသူဆိုသော ပဒစုယသည် နိဒဿနနာမ်စားလော ဟုမေးသော် မဟုတ်ကြောင်းကို ကျွန်ုပ်တို့ထွက်ဆိုနိုင် သည်။ အဘယ်ကြောင့်နည်းဆိုသော် နိဒဿနနာမ်စား ကိုသက်ရှိသတ္တဝါ၏ အမည်ဖြစ်သောနာမ်၏အစားမ သုံးနိုင်သောကြောင့်တည်း။

ထိုကြောင့် ဤသူ ဆိုသော ပဒစုယကိုခွဲ၍။ ဤ ကို နိဒဿနနာမ်စားနာမဝိသေသနကဲ့သို့ ၎င်းပြင် သူ ကို နာမ်ကဲ့သို့ ခွဲပ်တွက်ရသည်။

(ခ) ဤသူကား၊ အဘယ်သူ နည်း။

(ခ) ဌ်အဘယ်သူ ဆိုသောပုဒ်သည်မခွဲနိုင်သော ပုဂ္ဂိုလ်နာမ်စားတခုဖြစ်သည်၊အဘယ်ကြောင့် ဆိုသော် ပုဂ္ဂိုလ်နာမ်စားကိုကျွန်ုပ်တို့သေချာစွာမသိသောလူ၏အ မည်အစားသုံးနိုင်သောကြောင့်တည်း။

---

လေ့ကျင့်ခဏ်း ၈။

အောက်၌ မျဉ်းသားလျက်ရှိသောနိဒဿနနာမ်စာ

များကိုမည်သည့်နာမ်၊ သို့မဟုတ်မည်သည့် ဝါကျများအစားသုံးသနည်း။

၁။ ဤသူငယ်သည် ငယ်ရွယ်စဉ်ကပင်နိုးတတ်ဖွာသည်။ ဤဘား ကောင်းသောအကျင့်မဟုတ်ပြီ။

၂။ သေခြင်းအနီးသို့ ရောက်သော သူကိုလည်း ကျွန်ုပ်၏အစွမ်းဖြင့်ရှုတ်ယူကယ်ဆောင်နိုင်လိုပါသည်။ ဤ လည်းတပါးသောဆုဖြစ်သည်။

၃။ ကျွန်ုပ်၏ပုဆိုးနှင့်ပုဆိုးဝါကိုကြည့်ပါ။
ဤကား သစ်၏ ၊ ထိုကားမသစ်။

၄။ ရှေးသောအခါ၊ လူတယောက်သည်အမိကို မရှိမသေပြု၏။ ခရီးသွားသော အခါ ခလုတ်ထိနိုက်သဖြင့်။အမိကျေးဇူးကို အောက်မေ့လျက်၊ အဒိကိုတသခေါ်၏။ယင်းကိုအကြောင်းပြု၍ ယခုတိုင်ခလုတ်ထိမှအမိတသည်ဟုလူတို့ဆိုစမှတ်ပြုကြ၏။

၅။ ဆန်။တင်း။ရေ။ ဤသည်တို့ကို သူသည်လှည်းဦတင်၍ဆောင်သွားလေ၏။

၆။ သင်ဘတ်သောစာအုပ်သည်အလွန်ကောင်း၏။ ဤကား အခြားမဟုတ်။ ကျွန်ုပ်ဆရာစီရင်သောစာအုပ်ပေတည်း။

၇။ မင်းသွီးလည်း ဘုရားလောင်း ကမ်း လိုက်သောဦးသျှောင်ကျင်ကို လက်ဖြင့်မ၍။ ပလ္လင်ဦးခေါင်းရင်း၌ ထားလေ၏။ ဘုရားလောင်း လည်း အချင်းတို့။ ဤသည် လျှင်ဤပလ္လင်၌ဦးခေါင်းရင်းဖြစ်သည်ဟု ညွှန်ပြလေ၏။

၈။ အချင်းတို့ငါကားသင်တို့မင်းသွီးကို လူမိန်းမမှတ်၍သွားမိသည်။ဘိလူးမတကား။ ဤမျှ သာပြောပါရစေတော့။

---

၂၀ ပုဏ္ဏာနာမ်စား။

နှင့်

အပဏ္ဏာနနာမ်စား။

ပုဂ္ဂလနာမ်စား နှင့် နိဒဿနနာမ်စားတို့သည်ရှေး၌ရှိသောနာမ်ကိုတိုက်ရိုက်ညွှန် ပြသဖြင့်၊ ၎င်းနာမ်အားဖြင့်ဘော်ပြသောလူ၊သို့မဟုတ်အရာဝတ္ထုကို ကျွန်ုပ်တို့မျက်မှောက်ထင်ထင်မြင်ရသကဲ့သို့ဖြစ်သည်။

ပုဏ္ဏာနာမ်စား နှင့် အပဏ္ဏာနနာမ်စား တို့မှုကား၊အချက်ကျကျမသိရ သောလူ၊ သို့မဟုတ် အရာနှင့် ဆိုင်

သောနာမ်ကိုသာဘော်ပြ၍၎င်းနာမ်၏ အစားသုံးသော ရုန်များဖြစ်သည်။

ဥဒါဟရဏ်ကား။

အဘယ်ကို လိုသနည်း }
မည်သူကို ကြည့်သနည်း } ပုစ္ဆာနာမ်စား။

အဘယ်ကို မျှလိုပါ }
မည်သူကို မျှမကြည့်ပါ } အပဋ္ဌာနနာမ်စား။

---

## ၂၁။ ပုစ္ဆာနာမ်စားကိုသုံးနည်း။

(၁) လူ၏အမည်ကိုဖြစ်စေ၊(၂)သက်မဲ့အရာ၏အမည်ကိုဖြစ်စေ (၃)အရာဝတ္ထု၏ပမာဏကိုဖြစ်စေ သိလိုသည့်အလိုက်။ ပုစ္ဆာနာမ်စားများကိုသုံးမျိုးသုံးနိုင်သည်။

ကျောင်းသုံး မြန်မာသဒ္ဒါတွင် ဥဒါဟရဏ် များကို ကြည့်လေ။

---

## ၂၂ အပဋ္ဌာနနာမ်စား များကိုပုစ္ဆာနာမ်စားများကဲ့သို့ပင်သုံးမျိုးသုံးသည်။

တပည့် သူငယ် တို့သည် အပဋ္ဌာန နာမ်းစားကို နို

ဒသသနနာမ်စားနှင့်နှိုင်းယှဉ်ကြည့်လျှင်။ ၎င်းအပဒ္ဒါနနာမ်စား၏အနက်အဓိပ္ပါယ်ကိုတိုး၍နားလည်လိမ့်မည်။

ဥပမာကား။

(က) ထိုကို ကျွန်ုပ်မလို။

(ခ) မည်သည့်ကို မျှမလိုပါ။

(က) ၌ထို သည်ကျွန်ုပ်တို့တပ်ရာသေချာ သိသောအရာတစုံတခုကိုတိုက်ရိုက်ညွှန်ပြသဖြင့်။ နိဒသနနာမ်စားဖြစ်သည်။

(ခ) ၌ မည်သည်ကို ဟူသောပုဒ်သည်တစုံတခုသောအရာကိုမျှတိုက်ရိုက်ညွှန်၍မပြသောကြောင့်။၎င်းအရာကိုမသိရချေ။

---

၂၃။ အပဒ္ဒါနသချာနာမဝိသေသနကိုနာမ်၏ အရာ၌သုံးလျှင်။အပဒ္ဒါနနာမ်စားဖြစ်သည်၊

ဥပမာကား။တစုံတခုကိုယူခဲ့။

တစုံတခုဆိုသောပုဒ်သည်အရာတခုခုကိုတိုက်ရိုက်ညွှန်၍မပြသောကြောင့်။ ၎င်းအရာကို ကျွန်ုပ်တို့ သေချာစွာမသိနိုင်ချေ။

လေ့ကျင့်ခန်း ၆။

အောက်၌မျဉ်းသားလျက် ရှိသော နာမ်စား များ သည်မည်သည့်အမျိုးအစား၌ပါဝင်သနည်း။ ၎င်းနာမ်စားတို့သည်(က) လူနှင့်ဆိုင်သလော။ သို့မဟုတ် (ခ) သက်မဲ့အရာနှင့်ဆိုင်သလော။ သို့တည်းမဟုတ်(ဂ) ပမာဏနှင့်ဆိုင်သလော။

၁။ ဤဆင်ဖြူတော်ကို စီးတော့မှာ ဘယ်သူ ညွှန်ပြဘိသနည်း။

၂။ တစုံတယောက်က။ ဤပုဏ္ဏား အို သည်လူ လောဘီလူးလော ဟု မေးမြန်းအံ့။ လူဖြစ်သည်ဟုမည်သူမျှမဆိုရာ။

၃။ ဇာလီမင်းသားသည်ခမည်းတော်အားဘောင်း ပန်ပါသော် လည်း။ ဘုရားလောင်းသည် မည်သည့်မျှ မဆို။

၄။ ကျွန်ုပ်စာရေးနေသည့်အခါ။ မည်သူကိုမဆို မဝင်လာစေနှင့်။

၅။ ငါ့ သားတော်သမီးတော် တို့အား တမင်းကို အဘယ်သူပေးပါလိမ့်အံ့နည်း။

၆။ ကျွန်ုပ်မှာငွေအများရှိသည်။ သို့သော်လည်း အချို့သာအမဲလိုက်တတ်သည်။

၇။ ထိုလူတို့အနက် ဘယ်နှစ်ယောက် စာဘတ်တတ်သနည်း။

၈။ မန္တြီ ဒေဝီသည် ဘုရားကျောင်းအားအလုံးစုံကို ပြန်ကြားလေ၏။

၉။ ထိုလူနာသည်မည်မျှစားသနည်း။ အဘယ်မျှမစားပါ။

၁၀။ ထိုနေရာ၌ ဘယ်နှစ်ကောင် ရှိသနည်း။

၁၁။ အဘယ်ကို ယူရသော်။ကောင်းအံ့နည်း။ အဘယ်ကိုမျှ မယူပါနှင့်။

၁၂။ မည်သူတစုံတယောက်မဆို ငါ့အိမ်သို့ မလာရ။

၁၃။ သင်၌ ငွေပေါ် မည်မျှ ရှိသနည်း။ မည်မျှ ရှိသည်ကိုမသိပါ။

---

## အခန်း—၇

### ၂၄။ ကြိယာ။

### ဝါစကအကြောင်း။

က။ အချက်။

(၁) ခွေးသည်ကိုက်တတ်သည်။

(၂) လူကလေးသည်ပြေးသည်။

(၃) မြင်းသည်လျှသည်။

ခွေးနှင့်စပ်လျဉ်း၍ အကြောင်းအရာ တစုံတခုကို ပြောပါဟု မေးသော်။ ခွေးကိုက်တတ်သည် ဟုဖြေဆိုနိုင်သည်။ ထိုနည်းအတူ လူကလေး ပြေးသည်။ မြင်း လှသည် ဟုဆိုနိုင်လိမ့်မည်။

(၁) ကိုက်တတ်သည် (၂) ပြေးသည် (၃) လှသည်ဟူသောကြိယာ တို့သည်။ ခွေး။ လူ။ မြင်းဟူ သောနာမ်အသီးအသီးတို့ နှင့်ဆိုင်သောအကြောင်းတ ခုခုကိုဘော်ပြသည်။ထိုကြောင့်၎င်းကြိယာ များသည်။ ဝါစက များဖြစ်ကြသည်။

ခ။ အချက်။

(၁) မောင်မည်းသည် .............. ဖြစ်သည်။

(၂) မောင်နီသည် .............. မဟုတ်။

(၁) ဖြစ်သည် (၂) မဟုတ် ဟူသော ပုဒ်တို့ သည်ကြိယာပင်ဖြစ်ကြသော်လည်း။၎င်းတို့ကိုထောက် သဖြင့်ကတ္တားများ၏အကြောင်း တစုံတခုကိုမျှ မသိရ ချေ။ထိုကြောင့် ၎င်းကြိယာ နှစ်ရပ်တို့သည် ဝါစကမ ဟုတ်ချေ။

ဂ။ အချက်။

(၁) မောင်မည်းသည်စာရေးကြီးဖြစ်သည်။

(၂) မောင်နီသည်ကုန်သည်မဟုတ်။

မောင်မည်းနှင့်စပ်လျဉ်း၍ အကြောင်း တစုံတခု ကိုပြောပါဟုမေးခဲ့သော်၊ မောင်မည်းသည်စာရေးကြီး ဖြစ်သည် ဟုဖြေဆိုနိုင်သည်။ ထိုနည်း အတူမောင်နီ နှင့်ဆိုင်သောအကြောင်းမည်သည်ကို သိသနည်းဟု မေးချေသော်။ မောင်နီ ကုန်သည်မဟုတ် ကြောင်းကို ပြန်၍ပြောဆိုနိုင်သည်။

စာရေးကြီးဖြစ်သည် ၎င်းပြင် ကုန်သည် မ ဟုတ် ဟူသောပဒစုတို့ကိုအမှီ ပြုသောအားဖြင့်။ ၎င်းတို့ နှင့်ဆိုင်ရာနာမ်များအကြောင်းတစုံတရာကို ကျွန်ုပ်တို့ ဘော်ပြနိုင်သည် ဖြစ်၍ (၁) စာရေးကြီးဖြစ်သည်။ (၂) ကုန်သည်မဟုတ် ဟူသောပဒစုတို့သည်ဝါစကဖြစ်ကြသည်။

---

## ၂၅။ ဝါစက၏အဓိပ္ပါယ်အကျဉ်း ဘော်ပြချက်။

အထက်၌ဆိုအပ်ခဲ့ပြီးသောအကြောင်း အရာတို့ကို ထောက်၍ ဝါစက၏သရုပ်အဓိပ္ပါယ်အကျဉ်းကိုဖြေ ဆိုနိုင်ရမည်။

အဓိပ္ပါယ်ကား။

ကတ္တားနှင့်ဆိုင်ရာအကြောင်း တစုံတခုကို စုံလင်

သချောစွာဘော်ပြသောပုဒ်။ သို့မဟုတ်ပုဒ်ပေါင်းသည် ဝါစက မည်၏။

---

## လေ့ကျင့်ခန်း ၁၀။

အောက်၌ရှိသောဝါကျများ၏ဝါစကတို့ကိုဘော်ပြလေ။

(၁) ဌက်သည်ပျံ၏ (၂) ကလေး သည် ငိုနေသည်။ (၃) ကလေးကိုကျွန်ုပ်မရိုတ်ပါ (၄) လူများသည် အိပ်နေကြသည် (၅) ဤလူသည် အလွန်ဝ၏။ (၆) ယနေ့မိုးရွာလိမ့်မည် (၇) ငါ့မှာခွေးတကောင်ရှိသည် (၈) ဤမြို့မှာရောဂါ ဖြစ်နေ သည်။ (၉) သင်သည် ကျောင်းသား ဖြစ်သလော။ (၁၀) ကျွန်တော်ကျောင်းသားဟုတ်ပါသည် (၁၁) သင်၏အားထုတ်ခြင်းသည် အကျိုးမရှိ (၁၂) သူသည် အလွန်မေတ္တာမဲ့သည် (၁၃) ဤသူငယ်သည် ကျွန်ုပ်၏သားမှန်ပါသည် (၁၄) ဤအရပ်၌ သင်လူကြီးတယောက်ဖြစ်သင့်သည် (၁၅) သူကား ဆရာ တည်း (၁၆) သူ၏သားသည် မောင်ဖြူ အမည်ရှိ၏ (၁၇) သင်သည်ငါ့ကိုကျွန်ုပ်လုပ်သို သလော (၁၈) သူပြောသောစကားသည်မှန်ပါသည် (၁၉) သူသည် ဤအမှုအိုပမာဏမပြု။

၁၉။ ဝါစကရုံကြိယာ။
ဝါစကမရုံကြိယာ။
ပူရဏပုဒ်။

က။ အချက်။

စာပိုဒ် ၂၄ (က) တွင် (၁) ကိုက်တတ် သည် (၂) ဖြေးသည် (၃) လှသည်ဟူသော ကြိယာများသည် ဝါစကဖြစ်ကြကြောင်းကိုသိရပြီ။ ၎င်းကြိယာများကို ဝါစကရုံကြိယာများဟုခေါ်သည်။ အဘယ်ကြောင့်ဆိုသော်။ အခြားပုဒ် တစုံတခုကိုမျှ မထည့် သွင်းဘဲ။ ကတ္တားအသီးအသီးတို့နှင့် ဆိုင်ရာအကြောင်းများကို ၎င်းကြိယာများနှင့်ပင်စုံလင်သေချာစွာမြွက်ဆိုနိုင်သောကြောင့်တည်း။

ခ။ အချက်။

မောင်မည်းသည်................ဖြစ်သည်။

ဖြစ်သည် ဆိုသောကြိယာသည်ဝါစကမဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော်။၎င်းနှင့်ဆိုင်ရာ ကတ္တား၏အကြောင်းတစုံ တခုကို မျှစုံ လင်စွာ မဆောင် မပြ သောကြောင့်ဖြစ်သည်။ထိုကြောင့်၎င်းကြိယာကို ဝါစကမရုံကြိယာဟုခေါ်သည်။

ဂ။ အချက်။

မောင်မည်းသည်စာရေးကြီး ဖြစ်သည်။

ဝါစကမစုံသောကြိယာကိုဝါစကစုံစေခြင်းငှါနာမ်တခုခုနှင့်တွဲ၍သုံးရချေသည်။ ဤကဲ့သို့ဝါစကစုံအောင်ထည့်သွင်းပေးရသောနာမ်သည် ပူရဏပုဒ် မည်၏။

အထက်၌ရေးသားလျက်ရှိသောဝါကျတွင် စာရေးကြီး ဆိုသောနာမ်ပုဒ်သည်ပူရဏပုဒ်ဖြစ်သည်။

——— ———

၂၄။ ပူရဏပုဒ်နှစ်မျိုး။

(က) မောင်မည်းသည် စာရေးကြီး ဖြစ်သည်။

(ခ) မောင်ဖြူသည် ကုန်သည် မဟုတ်။

အထက်ဝါကျများ၌ စာရေးကြီး နှင့် ကုန်သည် ဟူသောနာမ်ပုဒ်တို့သည် မောင်မည်း။ မောင်ဖြူ ဆိုသောကတ္တား အသီးအသီးတို့နှင့် သက်ဆိုင် သောကြောင့်။ ကတ္တားပူရဏပုဒ် ဖြစ်ကြသည်။

ဂ။ ကျွန်ုပ်တို့သည် ထိုအသီးကို လိမ္မော်သီး ဟုခေါ်ကြသည်။

(ဂ) ဝါကျ၌လိမ္မော်သီး ဟူသော နာမ်ပုဒ်ကိုချန်လှပ်ထားလျှင်။ ၎င်းဝါကျမှာ အဓိပ္ပါယ် စုံးစည်းမှုရှိမည်မဟုတ်။ ကြိယာသည်ကံရှိလျက်နှင့်ဝါစကမစုံချေ။

လိင်မွှာသီး ဆိုသောနာမ်ပုဒ်သည် အသီး ဆိုသောကံ နှင့်သက်ဆိုင်သောကြောင့် ကံပုဂ္ဂလာပုဒ် ဖြစ်သည်၏။

---

## ၂၀။ ပုဂ္ဂလာပုဒ်ကိုကြိယာဝိသေသနနှင့် နှိုင်းယှဉ်ခြင်း။

သဒ္ဒါ၌ပုဂ္ဂလာပုဒ်ကိုအဘယ်ကဲ့သို့အသုံးပြုကြသည်ကိုကော ်င်းမွန်စွာနားလည်လိုမူ။ ကြိယာဝိသေသနနှင့် နှိုင်းယှဉ်၍ကြည့်သင့်သည်။

ကြိယာဝိသေသနသည်ကြိယာတရပ်၏ အဓိပ္ပါယ်ကိုမပြောင်းလွဲစေဘဲ။တိုး၍သာပွားစေ၏။

ဥပမာကား။

(က) မြင်းသည်ပြေးသည်။

(ခ) မြင်းသည်(မနေ့က)(လျှင်မြန်စွာ)ပြေးသည်။

(ခ) ၌ကြိယာဝိသေသနများကို ထည့်သွင်းသော်လည်း။ကြိယာ၏အဓိပ္ပါယ်ရင်း သည်အနည်း ငယ်မျှမပျက်ချေ။ထိုကြောင့်ကြိယာဝိသေသနဆိုသော ဝါစင်္ဂသည်ဝါကျတရပ်၌ပုဒ် အပိုမျှသာဖြစ်သည်။

ပုဂ္ဂလာပုဒ်မူကား။ကြိယာ၏အဓိပ္ပါယ်ရင်းကို မပွားစေဘဲ။ပြောင်းလွဲစေတတ်သောပုဒ်ဖြစ်သည်။

ဥပမာကား။

ထိုတောင်ကိုဝက်ပါဟုခေါ်ကြသည်။

ဤဝါကျကိုပုရဏပုဒ် (ဝက်ပါ) မသွင်းဘဲ။ ရှုတ်ဆိုခဲ့လျှင်။ တောင် ကို လက်ရပ် ခေါ်သောသဘော သာထွက်လိမ့်မည်။ ထိုနောက်။ ပုရဏပုဒ်ကို ဖြည့်သွင်း၍ဆိုချေက။ အမည်ပေးခြင်းသဘော ထွက် လိမ့်မည်။ ထိုကြောင့်ပုရဏပုဒ်သည်ကြိယာဝိသေသနကဲ့သို့ စကားပိုမဟုတ်ချေ။

---

လေ့ကျင့်ခန်း ၁၁။

(က) အောက်၌ မျဉ်းသား၍ ထားသော ကြိယာများတွင်မည်သည့်ဝါစကစုံကြိယာမည်သည့်ဝါစကမစုံကြိယာဖြစ်သည်ကိုဘော်ပြလေ။

(ခ) ကတ္တားပုရဏပုဒ်များနှင့်ကံပုရဏပုဒ်များကိုလည်းညွှန်ပြလေ။

၁။ ထိုအခါကလိက်ရာဇ်ပြည်၌ဒုဋ္ဌဂါမဏိရကာပ်ဖြစ်လေ၏။

၂။ သူတို့သည်မိုးဃ်းရွာခြင်းကို မဖြစ်စေနိုင်။

၃။ သူသည်ဆရာ ဖြစ် သည်။

၄။ ဗန္ဓုလမင်းဒီမင်း၌ကား။ သွီးတော်နှစ်ယောက် ရှိ၏။

၅။ မင်းကြီး၏သားတော်သည် သိမ္မည်းအမည်ရှိ၏။

၆။ အသက် ရှင်၍ အဘယ်အကျိုး ရှိတော့အံ့နည်း။

၇။ အကျွန်ုပ်၏ကိုယ်၌ ရင်သွေးတန်ဘသည်မပြတ် ဖြစ်စေသတည်း။

၈။ ကိုယ်စိတ်၏ပင်ပန်းခြင်း မဖြစ်ခဲ့ပြီးလော။

၉။ အလှူပေးခြင်း။ သီလဆောက်တည်ခြင်း အစရှိသောကောင်းမှုတို့ကိုသင်တို့ ပြုကုန်ရစ်။

၁၀။ ငြော့သည်တို့ပြုရာသောဝတ်ကို အကျွန်ုပ်တို့ကုန်အောင် ပြုပါအံ့။

၁၁။ ယခုကြွရောက်တော်မူခြင်းသည်ကောင်းသောလာခြင်း ပေတည်း။

၁၂။ ဝင်္ကပါတောင်သို့ ကြွတော်မူ၍ အဘယ်အကျိုး ရှိတော့မည်နည်း။

၁၃။ သင်တို့ပင်ပန်းရုံမျှသာ ရှိမည်။

၁၄။ ဤသစ်သီးသည်အရသာ ရှိသည်။

၁၅။ ဤခရီးသည် တယောက် သွားလောက် ရုံမျှ ရှိသည်။

၁၆။ ငါ၏ညီသမုဒ္ဒရာ၌ကူးသည်ကားယခုနှစ်ရက်ရှိပြီ။

၁၇။ သင်တို့ပြည်၌ငါမင်း မပြုလို။

၁၈။ သင် ကားဝေ ဿန္တရာ မင်းကြီး၏ ရန် သူ မဟုတ်။

၁၉။ ငါသည် သင်လူအိုကိုထင် လုပ်မိချေ သော ကြောင့်ရွာသူတို့ဆဲရေးဆိုမြည်ခြင်းကိုခံရသည်။

၂၀။ ထိုမြစ်ကို ဂေါတမီ မြစ်ကြီးဟု ခေါ်ဝေါ် ကုန်၏။

၂၁။ ထိုတောင် သည် ဝင်္ကပါတောင်ဟု အမည် ရှိ၏။

၂၂ မင်းတပါးသည်သင့်ကို တောင်ညာနှင်းလို ပါသည်ဆိုလျှင်။ထိုဆိုလာသော မင်းကို အရှင်ဟုမှတ် ၍။အရှိအသေလုပ်ကျွေးရစ်။

၂၃။ သို့တော်အငယ် သည် မြေပန်းကုံးကိုရင် ဖွမ်းတန်ဆာ ပြုလေ၏။

---

၂၄။ နယ။

ကျောင်းသုံးမြန်မာသဒ္ဒါစာမျက်နှာ၁၈၉တွင်ကြိယာ နယများအကြောင်းကိုကြည့်လေ။

ကြိယာတခု၏နယကို သိနိုင်အောင်၊ နယအသီးအသီးတို့၏သုံးစွဲချက်များကိုအထက်ဆိုခဲ့သောသဒ္ဒါ၌ဖော်ထားသည်အလိုက်မှတ်ယူရမည်။

က။ ဥဒ္ဒိဿနယ ၏သုံးစွဲချက်များမှာ။ (၁) ထပ်ရာသေချာပြောခြင်း (၂) မေးခြင်း (၃) ငြင်းပယ်ခြင်း။

ခ။ အာဏာတ္တိနယ ၏သုံးစွဲ ချက်များ ကား (၁) အာဏာပေးခြင်း (၂) အလိုဆန္ဒရှိခြင်း (၃) မေတ္တာမှုခြင်း။ (ဥဒါဟရဏ်ကား။ အသက် တရာ နေရပါစေ သား။ လိုအပ်သောဆန္ဒနှင့်ပြည့်စုံပါစေ။) (၄) တောင်းပန်ခြင်း။

ဂ။ သံသယနယ၏သုံးစွဲခြင်းကား။ ပြုခြင်း။ ဖြစ်ခြင်းအကြောင်းတစုံတခုကိုစိတ်ဒွိဟာသဘောနှင့် ပြောဆိုရန်သုံးသည်။

---

လေ့ကျင့်ခဏ်း ၁၂။

အထက်၌ ဆိုခဲ့ သော အချက်များကို ထောက်၍ အောက်၌ချည်းသားထားသောကြိယာ အသီးအသီးတို့၏နယကိုတော်ပြလေ။

၁။ ခွေးသည် ကိုက်တတ်သည်။

၂။ သင်သည်မြင်းကို စီးတတ်သလော။

၃။ ကျွန်ုပ်တို့သည်မြင်းကို မစီးတတ်ပါ။

၄။ ကိုယ်တော်အဘယ်သို့ ရှိပါသနည်း။

၅။ ငါ့အားအနာ မရှိ။ ပကတိ ကျန်းမာပါ၏။

၆။ ဤအရပ်၌ အရှင်မင်းကြီးအလိုရှိတိုင်းအမိန့်တော်ရှိတော်မူလော့။

၇။ အလျောက်အထား မသွားကြနှင့်တော့။

၈။ အရှင်သားတော်မင်းကိုပြည်မှနှင်ထုတ်တော်မူ၍၊ ဝက်ပါအညည်ရှိသောတောင်၌ နေစေတော် မူလော့။

၉။ ချစ်သား၊ သင်သည်ဤသို့ လာလှည့်။ ခမည်းတော်ဒါနပါရမီကို ဖြည့်ပါရစေ။

၁၀။ ဤယာစကျွန်ုပ် ပြု အပ်သောကောင်းမှုသည် သဗ္ဗညုတဉာဏ်၏အထောက်အပံ့ ဖြစ်ပါစေသား။

၁၁။ အရှင် မင်းကြီးအား အောင် ခြင်း မင်္ဂလာ ဖြစ်စေသတည်း။

၁၂။ အဘယ်ကြောင့်မတော်သောစကားကို ပြောဘိ သနည်း။

၁၃။ အသက် ရှင် လည်း၊ အရှင်မင်း ကြီးလက်တွင် ရှင်စေ။

၁၄။ ကျွန်ုပ်သည်သင့်အားထိုအကြောင်းကိုမပြောပါရစေနှင့်တော့။

၁၅။ ထိုစကားကို ကြား လျှင်၊ဖုသထီဒေဝီသည် ဤသို့ ဝိုကြွေး ၏။

၁၆။ မိုးညှင်းရွာလျှင်၊သင့်အိမ်သို့ငါ လေးပြီ။

၁၇။ ထိုရွာမှ သွားပြန် သော်။ ဒွေးရာဇာ ပြည်သို့ ရောက်လေ၏။

၁၈။ အကျွန်ုပ်၏ ဥစ္စာရတနာများကို အဘယ်မှာ မြှုပ်ထားရ သော်၊ကောင်းအံ့နည်း။

၁၉။ သင်တို့အား ငါ့သားတော် ပေးသည်မှန် မူ၊ မယူပိုင်ချေဟု နှစ်လုံးမရှိကြနှင့်။

၂၀။ သင်မှူကားလင်ကိုချစ်၍၊ဆင်းရဲကို ခံလို မူ၊ ခံနိုင်ပါစေ။

၂၁။ တစုံတယောက်သောသူသည်ငါ၏နှစ်လုံးအသွေးအသားဘို တောင်းခံ လာအံ့၊ ငါသည်ရင်ကိုခွဲ၍ ထိုသူအား ပေးအံ့သတည်း။

၂၂။ အတွင်းအလှူကို လှူရ သော်ကား၊ ငါ၏စိတ်သည်နှစ်သက်ခြင်း ဖြစ်အံ့။

၂၃။ သူသည်ကျွန်ုပ်ကိုခေါ်ကောင်း ခေါ်လိမ့်မည်။

၂၄။ ယင်းသို့တပြီးကား၊ရထားပေါ်သို့တက်လှည့်၊ ယခုပင်သွားကြကုန်အံ့။

၂၅။ မိးသတော်သယနေ့ရောက်ကောင်း ရောက်လိမ့်မည်။

၂၆။ ရှား မီး ကျိုး ထဲ၌ ဆင်း၍ သေရ သော်မှကောင်း၏။

၂၇။ ငါသည်ဤသမုဒ္ဒရာအလယ်၌အကယ်၍လုံလကို လျှော့ချငြားအံ့၊ ယောကျ်ားမြတ် ဖြစ်ကျိုးအဘယ်မှာရှိတော့အံ့နည်း။

---

မေးခွန်းပုစ္ဆာများ။

၁။ ကျောင်းသုံးမြန်မာသဒ္ဒါစာပိုဒ် ၁၆၄ တွင် ညွှိသနယ၌ (က)ရှိသေခြင်း (ခ)မေးခြင်း၊ (ဂ)မြင်

ခြင်းဟူသောနည်းသုံးမျိုးပါဝင်သည်ဟုရေးသားလျက်ရှိသည်။ထိုမှတပါးသံသယနယနှင့် အာဏတ္တိနယတို့၌ရှိသေခြင်း။ဖြစ်ခြင်းနည်းများပါဝင်သည်ဟူ၍လည်းရေးသားလျက်ရှိသည်။ ၎င်းတို့ကိုဥဒါဟရဏ်နှင့်တကွဘော်ပြလေ။

၂။ (က) ဝါကျရိုး (ခ) နိဿိဒ သမ္ဗန္ဓနှင့်ဆက်ထားသော မိဿကဝါကျ၊ (ဂ) သမ္ဗန္ဓအားဖြင့် ဆက်လျက်မရှိသောမိဿကဝါကျ၊ ဤဝါကျသုံးမျိုးတို့တွင်၊ သံသယနယ၌ရှိသောကြိယာပါဝင်နိုင်ကြောင်းကိုဥဒါဟရဏ်နှင့်တကွဘော်ပြလေ။

---

၃၀။ အာချာကြိယာအကြောင်း။

ကျောင်းသုံး မြန်မာသဒ္ဒါစာမျက်နှာ ၉၀ ကိုကြည့်လေ။

က။ အချက်။

၁။ သင်စားသည်။

၂။ ကျွန်ုပ်တို့သွားပါရစေတော့။

၃။ သူလာလျှင်၊ကျွန်ုပ်ထွက်ပြေးမည်။

(၁) ဝါကျ၌ စားသည် ဟူသောအပြုအမူကိုပြ

သောသူကား အပြောခံရသောသူဖြစ်သည်။ ၎င်းအပြုအမူ ကိုလည်း တယောက်တည်းသာ လုပ်သည်။ ထို့ကြောင့်စားသည်ဟူသောကြိယာကို ဧကဝုစ်ကိန်း၎င်း ပြင်တုမှ ယောဂ၌သာ သုံးနိုင်အောင် ကန့်သတ်ထားသည်။

(၂) ဝါကျ၌ သွားပါရစေ ဟူသော ကြိယာသည် အာဏတ္တိနယဖြစ်သည်၊ ကြိယာအားဖြင့်တော်ပြအပ်သော အပြုအမူကို တယောက် တည်း ပြုမည်မဟုတ်၊ပြုလုပ်မည့် လူတို့သည်လည်း စကားပြောသောသူများ ဖြစ်ကြသည်၊ ဤအချက်၌လည်း ကတ္တားအားဖြင့်ကြိယာ၏ကိန်း၎င်းပြင်ယောဂတို့ကိုကန့်သတ်ထားသည်။

(၃) ဝါကျ၌ လာ ဆိုသော ကြိယာသည် သံသယနယ၌ရှိသည်။ ၎င်းကြိယာအားဖြင့်တော်ပြသောအပြုအမူသည်၊အကြောင်းနှင့်စပ်၍ အပြောခံရသောသူ တယောက် တည်းနှင့်သာ ဆိုင်အောင်၊ ကတ္တားသည် ၎င်း၏အသုံးအစွဲကိုကန့်သတ်၍ထားသည်။

အထက်၌ ဆိုခဲ့ပြီးသော ကြိယာများသည် အချာကြိယာ များဖြစ်သည်။

---

၁။ အချက်။

(၁) သောက်ရန် ရေသင့် အိမ်၌ ရှိသလော။

သောက်ရန် ဟူသောကိတ်ကြိယာသည်အခါချာကြိယာ မဟုတ်ချေ၊ အဘယ်ကြောင့်ဆိုသော်၊ ၎င်းကြိယာ၏အချိန် သုံးအပွဲကို ကဏ္ဍားတခုခုနှင့် ကန့်သတ်၍မထားသော ကြောင့်ဖြစ်သည်။

(၂) ထမင်း စားခြင်းသည် ကောင်း၏။စားခြင်း ဆိုသောပုဒ်သည်လည်း အခါချာကြိယာမဟုတ်ချေ။၎င်း ကိတ်နာမ်၏အသုံးအစွဲသည် အလွန်ပြန့်ပွားသည်ဖြစ် ၍၊မည်သူမည်ဝါစားသည်ဟူ၍မဆိုနိုင်ရာ။

---

၃၁။ အခါချာကြိယာ၏အဓိပ္ပါယ်အကျည်း။

ဥဒ္ဒိဿနယ၊အာဏတ္တိနယ၊သံသယနယ၊ဤနယတ ခုခု၌ရှိသောကြောင့်ကဏ္ဍားနှင့်မပြတ်တွဲ၍သုံးရသော ကြိယာသည် အခါချာကြိယာ မည်၏။

မှတ်ရန်။—ကြိယာတရပ်သည်အခါချာကြိယာဖြစ် သော်လည်းတရံတခါဝါစကမဖြစ်ချေ။

ဥပမာကား။

သူသည်ကျောင်းသား ဖြစ်သည်။

ဖြစ်သည် ဟူသော ကြိယာမှာ ကိန်း၊ ယောဂကာနှ့်

သတ်လျက် ရှိသောကြောင့်အာချာကြိယာဝစ်သည်၊သို့သော်လည်းရင်း၏ဝါစကမပုံကြောင်းထင်ရှားသည်။

---

## ၁၂။ ကြိယာ၏ကာလ။

ကျောင်းသုံးမြန်မာသဒ္ဒါ၌၊ ကာလ၏အကြောင်းကို သင်ပြီးသည်နောက်၊ ကြိယာ၏ကာလကိုလွယ်ကူစွာ သော်ပြနိုင်အောင်၊ အောက်၌ရှိသောအချက်ခုနစ်ရပ် တို့ကိုကြည့်၍၊လေ့ကျင့်ခန်းကိုလည်းဖြေဆိုလေ။

### မှတ်ရန်အချက်များကား။

(၁) ကာလပစ္စည်းစကားကြီးများကို ထောက်ရှုမှုနှင့်အများအားဖြင့် ကြိယာ၏ ကာလကို သော်ပြနိုင်သည်။ ၎င်းကာလပစ္စည်း စကားကြီးများကား။ သည်၊ ၏၊နေသည်၊ပြီ၊ပြီးပြီ၊ နှင့်ပြီ၊အံ့၊နေလိမ့်မည်၊ လိမ့်မည်များဖြစ်ကြသည်။

(၂) ကာလပစ္စည်း စကား ကြီးနှင့် ယှဉ်သော ကြိယာကိုအခြားကြိယာပစ္စည်း စကားများနှင့်တွဲသုံးသော်လည်း၊ကြိယာ၏ကာလရင်းသည် အနည်းငယ် မျှမပျက်ချေ။အခြားကြိယာပစ္စည်းစကားများကိုအရေး မယူသင့်။

ဥပမာကား။

(က) သူစားပြီ။
(ခ) သူစား(နှင့်)ပြီ။
(ဂ) သူစား(ဘူး)ပြီ(လော)
} ပစ္စုပ္ပန် ပစ္စုပ္ပန်ကာလ။

(က) သွားတော့။
(ခ) သွား(နှင့်)(ပါ)(ဦး)တော့။
} အပစ္စုပ္ပန် ပစ္စုပ္ပန်။

(၃) ပြီး ဟူသော ပစ္စည်းစကားသည် ကာလနှင့်အလျှင်းမဆိုင်ချေ၊ ပြုလုပ်ခြင်း၏ပြီးစီးကြောင်းကိုသာဘော်ပြသဖြင့်၊အခြားကြိယာတရပ်နှင့် နှိုင်းရှည်၍ သုံးမှသာလျှင်၊ ထို ပြီး နှင့်ယှည်နေသောကြိယာ၏ကာလကို သိရသည်။ ပြုလုပ်ခြင်းတစုံတခု ပြီးစီးမှအခြားတစုံတခုကိုပြုကြောင်းကိုမပြဘဲ၊သာမန်အားဖြင့်သာပြလျှင်၊စာသွားစာလာကိုထောက်၍သာဥင်းပြီးနှင့်ယှည်နေသောကြိယာ၏ကာလကိုသိနိုင်သည်။

အောက်၌ မျည်းသားလျက်ထားသော ကြိယာများသည်အပစ္စုပ္ပန်အတိတ်ကာလ၌ရှိကြသည်။

(၁) မနေ့ကငါသည်ထိုစာအုပ်ကို ဘတ်ပြီးသည်။
(၂) သူစာ ဘတ်ပြီးသည် ကိုသင်သိသလော။
(၃) ကျွန်ုပ်ထမင်း စားပြီးသည် ကားအတန်ကြာပြီ။
(၄) ကျွန်ုပ်ထမင်း စားပြီးသည် ဟုမည်သူပြောသနည်း။

(၄)။ ပြီး နှင့်ယှဉ်နေသောကြိယာကို နိသိတ သမ္ဗန္ဓအားဖြင့် ဆက်သွယ်ခြင်းကို ပြုသောအခါ၊ ၎င်းကြိယာ၏ကာလကိုဘော်ပြနိုင်အောင်၊ အောက်ပါဥပဒေများကိုမှတ်ယူသင့်သည်၊

(၁) ပဓါနဝါစကသည် အပဒ္ဓါနအတိတ် ကာလ၌ရှိလျှင်၊ ပြီး နှင့်ယှဉ် နေသော ကြိယာသည် နိပ္ဖန္နအတိတ်ဖြစ်သည်။

ဥဒါဟရဏ်ကား။

သူထမင်း စားပြီး လျှင်ထွက်သွားလေသည်။

(၂) ပဓါနဝါစကသည် အပဒ္ဓါနပစ္စုပ္ပန်။ သို့မဟုတ် အပဒ္ဓါန အနာဂတ်၌ ရှိလျှင်။ ပြီး နှင့် ယှဉ်သော ကြိယာသည် နိပ္ဖန္နပစ္စုပ္ပန်ဖြစ်သည်။

ဥဒါဟရဏ်ကား။

သူထမင်း စားပြီး လျှင်အိပ်တတ်သည်။

သူထမင်း စားပြီး လျှင်လာလိမ့်မည်။

(၅)။ ပြီး နှင့်ယှဉ်သော ကြိယာကို နာမဝိသေသနဝါကျကဏ္ဍ စကားဆက် နှင့် ဆက်သွယ်သော အခါ (၄) အချက်၌ဆိုထားပြီးဥပဒေနှစ်ရပ်တို့ကိုပင်အမှီပြု၍၊ ပြီး နှင့်ယှဉ်နေသောကြိယာ၏ ကာလကိုဘော်ပြနိုင်ရမည်။

ဥဒါဟရဏ်ကား။

(က) ပေးပြီးသော အရာကို သူသည် ပြန်တောင်းလေသည်။

{ ပဓါနဝါစက။ ပြန်တောင်း............အပဓာနအတိတ်။
ပေးပြီး ...............................နိပ္ဖန္နအတိတ်။

(ခ) ပေးပြီးသောအရာကို သူသည်ပြန်တောင်း တတ်သည်။

{ ပြန်တောင်းတတ်သည် ........................အပဓာနပစ္စုပ္ပန်။
ပေးပြီး .... ..............................နိပ္ဖန္နပစ္စုပ္ပန်။

(ဂ) သူသည်ပေးပြီးသော အရာကို ပြန်တောင်း လိမ့်မည်။

{ ပြန်တောင်းလိမ့်မည် ..................အပဓာနအနာဂတ်။
ပေးပြီး .... ..............................နိပ္ဖန္နပစ္စုပ္ပန်။

(၄) ပြီးနှင့်ယှဉ်သောကြိယာကိုသမာနသမ္ဗန္ဓအားဖြင့်အပဓာန အတိတ်၌ရှိသောကြိယာနှင့် ဆက်လျှင်၊ထိုပြီးနှင့်ယှဉ်နေသော ကြိယာသည်လည်းအပဓာနအတိတ်ဖြစ်သည်။ အဘယ်ကြောင့်နည်းဆိုသော်

သမာနသမ္ဗန္ဓသည် အရောတူဖြစ်သော ဝါကျနှစ်ရပ်ကို သဲဆက်သောကြောင့်တည်း။

ဥဒါဟရုဏ်ကား။

သူတို့သည်ထမင်း စားပြီး ၍ထွက်သွားကြလေသည်။

(၇) ပြီးပြီကို ကြိယာနောက်တွင်ထည့်၍ ဝါကျ ရိုးတွင် သုံးလျှင်၊ ၎င်းကြိယာသည် နိပ္ဖန္န ပစ္စုပ္ပန်ဖြစ် သည်။

ဥဒါဟရုဏ်ကား။

စားပြီးပြီ။
စားပြီး(လေ)ပြီ။ } နိပ္ဖန္နပစ္စုပ္ပန်။
စားပြီးနှင့်(လေ)ပြီ။

သို့သော်၊ အခါချာကြိယာ နှစ်ရပ်ပါသောမိဿက ဝါကျ၌ပါဝင်ခဲ့မူ၊ ၎င်းပြီးပြီနှင့်ယှဉ်သော ကြိယာ ၏ ကာလသည်နိပ္ဖန္နအတိတ်ဖြစ်သည်။

ဥဒါဟရုဏ်ကား။

(၁) သူလာသော်။ကျွန်ုပ်စားပြီးပြီ။

(၂) သူရောက်သောအခါကျွန်ုပ်စားပြီး (လေ)ပြီ။

(၃) သူရောက်သောအခါ ကျွန်ုပ်စား (နှင့်)လေပြီးပြီး

## လေ့ကျင့်ခဏ်း ၁၃။

အထက်၌ ဆိုခဲ့ပြီးသော အချက်များကိုထောက်၍ အောက်၌ရှိသော ကြိယာများသည် ပစ္စုပ္ပန် ကာလ၌ မည်သည့်အပိုင်းတွင်ကျသည်ကိုဖော်ပြလော။

၁။ ဤပထဝီမြေကြီးသည် ဝိုင်းသည်။

၂။ ထိုတောင်သည်အလွန်မြင့်သည်၊

၃။ သူသည်တရက်တခါကျွန်ုပ်အိမ်သို့လာသည်။

၄။ သင်အဘယ်ကလာသနည်း။

၅။ ကျွန်တော်အိမ်ကလာခဲ့ပါသည်။

၆။ ထိုအရာကိုသွား၍ယူချေ။

၇။ မြင်းစီးနေသောသူငယ်ကိုကြည့်ပါ။

၈။ အိမ်သားတို့ထမင်းစားကြပြီ၊ လာပါတော့။

၉။ ထမင်းစားလှည့်။ ကျွန်တော်စားပြီးပြီ။

၁၀။ မောင်နီအားငွေကိုပေးခဲ့သလော။ ပေးပြီးခဲ့ပါပြီ။

၁၁။ သူထမင်းစားနေသလော။ မစားသေးပါ။ စားဆဲရှိသည်။

(သတိပြုရန်—<u>စားဆဲရှိသည်</u>ကိုကြိယာတရပ်ကဲ့သို့မှတ်ယူလေ။)

၁၂။ သင်အဘယ်ကြောင့်မသွားသနည်း။ သင့်သူငယ်ချင်းကားသွား နှင့်ပြီ။

၁၃။ မင်းသွားနှင့်ပါတော့၊ ငါမသွားပြီ။

၁၄။ မင်းသွားနှင့်တော့၊ ငါမသွားဘူး။

၁၅။ သင်ဒူးရင်းသီးကိုစားဘူးပြီလော။ ငါဒူးရင်း သီးကိုစားဘူးပြီ။

---

လေ့ကျင့်ခန်း ၁၄။

အောက်၌ရှိသောကြိယာများသည် အတိတ် ကာလတွင်မည်သည့်အပိုင်း၌ကျသနည်း။

၁။ မောင်မည်းမနေ့ကလာသလော။ လာပါသည်။

၂။ မနေ့က ၅၊အချိန် တွင် သူသည် ထမင်းစား နေလေ၏။

၃။ လွန်ခဲ့သော စနေနေ့က၊ ကျွန်ုပ်တို့ သည် စကားစမည်ပြောနေကြသောအခါ၊ သူခိုးတယောက်ဝင်၍ကျွန်ုပ်တို့၏မြင်းနီကိုခိုးသွားလေ၏။

၄။ သူရောက်သောအခါ၊ ကျွန်ုပ်တို့ ထမင်းစား နှင့်ကြပြီ။

၅။ ထိုသူကိုလွှန့်ခဲ့သော နှစ်ကမြင်ဘူးသလော။ မြင်ဘူးပါသည်။

၆။ ကျွန်တော်ခြသေ့ကိုတခါမှမမြင်စဘူး။

၇။ ဤလူရိုက်သည် ကျွန်ုပ်၏ထမင်းကိုစားပြီး၍ ကျွန်ုပ်ကိုဆဲရေးဆိုမည်သည်။

၈။ သူသည်မိမိစာကိုရေးပြီးမှ ထွက်သွားသည်။

၉။ ကျွန်ုပ်ရောက်မှ သူထမင်းစားပြီးနှင့်ပြီ။

၁၀။ နေ့က ကျွန်ုပ်သင့်အိမ်သို့ လာသော အခါ၊ သင်အိပ်နေသည်။

---

လေ့ကျင့်ခဏ်း ၁၅။

အောက်၌မျဉ်းသားလျက် ရှိသော ကြိယာအသီးအသီးတို့၏ ကာလကိုဘော်ပြလေ။

၁။ မဟာသမုဒ္ဒရာမည်သည်ကား၊ အလွန်ဘေးအန္တရာယ်များသည်။

၂။ ယခု၊ အမိတွင်ရှိသောဉစ္စာနှစ်ဖြင့်ပင် သော်လည်း၊ မိမိလာပြည်ကိုသာမကများစွာသောတိုင်းပြည်တို့ကိုပင်၊ အလိုရှိလျှင်ရလောက်ပြီ။

၃။ ဤမင်္ဂလာ အခါ သဘင် ကဲ့သို့ ဘယ်တွင် မှ မကြုံမိစဘူး။ ကံထူး၍အသင့်ဘူးမြော်ပူဇော်ရပေသည်။

၄။ ထိုသို့တပြီးကား၊ ကောင်းပြီ၊ ရဟန်းပြုလေတော့။ ရဟန်းပြုပြီးလျှင်ကား၊ ဟိမဝန္တာမှာသာမနေပါလေနှင့်။

၅။ ထိုအလုံးစုံသော ရှင်ရသေ့ တို့သည် အလွန် စင်ကြယ်စွာသောဗြဟ္မာမင်းအဖြစ်သို့ ရောက်ကြ လေကုန်ပြီ။

၆။ ငါအတန်တန်သော ဘေးကို ပြေးရှောင်၍၊ လွတ်ပြီးလျက်၊ ဤမုဆိုးလေ တွင်ပြေးရာမသိရှိခဲ့ပြီ။

၇။ သင်သာငါ့ကိုကျွန်ကဲ့သို့ ရေခပ်ခြင်းစသည် ဖြင့်လုပ်ကျွေးအံ့၊ သင့်အိမ်မှာငါမနေပြီ၊ သင်နှင့် ကွာတော့အံ့။

၈။ အရှင်ပုဏ္ဏား၊ ဤသို့ လာလှည့်၊ ငါပြောအံ့ ငါကြားဘူးသည်ကား၊ ဝေဿန္တရာမင်းသည် ဝင်္ကပါတောင်၌နေ၏။

၉။ နှစ်လရှည်စွာကွဲလေပြီးသော ပေါက်ဘော် ဆွေမျိုးကိုတွေ့မြင်ရပေသည်ကား၊ အလွန်ကောင်း၏။

၁၀။ အလုံးစုံသောပြည့် ထဲရေးတိစ္ဆတို့ကိုမှာထားပြီးလျှင်၊ ပေါလဇာနကမင်းကြီးဘ၀ပြောင်းလဲလေ၏။

၁၁။ ငါ့အား ကိလေသာဟုဆိုအပ်သောကြောင့်ကြခြင်းမည်သည်မရှိ၊ ထိုကြောင့်ကြခြင်း ကိလေသာငြိမ်းပြီး ဖြစ် သောကြောင့်၊ ယခုငါ့စိတ်သည်အလွန်ချမ်းသာစွာရှိ၏။

၁၂။ အကျွန်ုပ်တို့ကြာမြင့်စွာမနေသာ၊ ယခု သွားလိုပါပြီဟုဆိုကြ၏။

၁၃။ မိဖုရားကြီးမှုကား၊ မိမိအရွယ် ကြီးပြီဖြစ်၍၊ အသာအရာလိုက်လေ၏။

၁၄။ ရှင်ရသေ့၊ကိုယ်၊ နှုတ်၊ နှလုံး စောင့်သောရဟန်းတို့အား ဤလူ့ပြည်၌ အလှူ ပေး၍ ဒါယကာ တို့သည်နဂါးပြည်သို့လားရဘူး၏ဟုငါကြားဘူး၏။

၁၅။ အထက်က ဤအခြင်းအရာများကိုမမြင်စဘူး ယခုမှုကားကံထသောကြောင့်၊မြင်ဘူးပြီ။

၁၆။ သေခြင်းအနီးသို့ရောက်ပြီးသောသူကိုလည်း အကျွန်ုပ်၏အစွမ်းဖြင့်နှုတ်ယူကယ်ဆောင်နိုင်လို၏။

၁၇။ ထိုပစ္စုမြားကိုရှေး၌ဘုရီဒတ်နဂါးမင်းသည်

အကျွန်ုပ်တို့အားပေး၍၊ ပေးသောခါ၊ မယူဘဲ၊ ပယ်ပြီးမှ၊ ယခုအဘယ်ကြောင့် အလိုရှိပြန်သနည်း။

၁၈။ ထိုအခါသိကြာမင်းသည်၊ ငါ၏မိဖုရားဖုသသတီအသို့ဖြစ်သနည်းဟု ဆင်ခြင်လတ်သော် သိဝိတိုင်းသိဥ္စည်းမင်းကြီး၏ မိဖုရားကြီးဖြစ်ပြီးသည်ကို မြင်၍၊ ဖုသသတီဒေဝီအား ကိုးပါးသောဆုသည်ယခုပြည့်စုံပြီ။ သားဆု တပါးသာ မပြည့်စုံသေး၊ ဖုသသတီဒေဝီအား သားဆုကိုပေးအံ့ဟု ကြံ၏။

၁၉။ အရွယ် လွန်ပြီး သက်ကြီးရွယ်အိုကိုလင် လုပ်ရသော မိန်းမသည်။ ဆင်းရဲတကာတို့ထက်လွန်၍ ဆင်းရဲ၏။

၂၀။ ဘုရင် ဖြစ်ပြီး။ ဘုန်းကြီးသော မင်းတို့နှင့် သာလိုက်သောဆင်မြူရတနာကိုတောင်းခံကြ၏။

---

## ၃၃။ ကိတ်ကြိယာ။

ကိတ်ကြိယာသည်အာချာကြိယာ မဟုတ်ကြောင်း ကိုသိရလေပြီ။ အာချာ ကြိယာမဟုတ်သည် အတွက်၊ ၎င်းကိတ်ကြိယာကိုမည်သည်အခါမျှကြိယာကဲ့သို့ရှပ်

မတွက်နိုင်ချေကြိယာဝိသေသနကဲ့သို့သော်၎င်း၊ နာမဝိသေသနကဲ့သို့သော်၎င်းရုပ်ဘွက်ရာသည်။

ကိတ်ကြိယာတရုပ်ရှေ့ကနာမ်၊ သို့မဟုတ်နာမ်စားတခုကိုတပ်၍သုံးနိုင်သည်၊သို့သုံးသောအခါ၊၎င်းနာမ်၊သို့မဟုတ်နာမ်စားပုဒ်သည်ကတ္တားစင်စစ်မဟုတ်ချေ။ထိုကြောင့်၎င်းပုဒ်နှစ်ရုပ်တို့၏ ပေါင်းခြင်းကိုဝါကျမခေါ်နိုင်ချေ။ကိတပဒစယမျှသာဖြစ်သည်။

ဥဒါဟရဏ်ကား။

စားရန်................ကိတ်ကြိယာ။

ကျွန်ုပ်တို့ ၏ထမင်းကိုစားရန်။ } ကိပဒစယများ။
၏ထမင်းကိုစားရန်။

အထက်၌ ပြထား သော ကိပဒ စယ များကို သာ နာမ်၏အရာ၌သုံးနိုင်သည်။

၁။ ကြိယာဝိသေသနကဲ့သို့သုံးခြင်း။

သူတို့သည်ကြည့်ရှုရန်လာသည်။

၂။ နာမဝိသေသနကဲ့သို့သုံးခြင်း။

စားရန်ထမင်းကိုယူခဲ့ပါ။

ငါစားရန်ထမင်းကိုယူခဲ့ပါ။

၃။ နာမ်ကဲ့သို့သုံးစွဲခြင်း။

ဤထမင်းကိုစားရန်မသင့်ပြီ။

ကျွန်ုပ်တို့ဤထမင်းကိုစားရန်မသင့်ပြီ။

---

## လေ့ကျင့်ခန်း ၁၄။

အောက်၌ရှိသောကိရိတ်ကြိယာများနှင့် ကိတပဒ
ယအသီးအသီးတို့၏ဝါစင်္ကိုဘော်ပြ၍ ရှာတွက်လေ။

၁။ သူသည်စာကိုသင်ကြားရန် ကျောင်းသို့လာ
သည်။

၂။ သောက်ရန်ရေအနည်းငယ်ယူခဲ့ပါ။

၃။ ငါသောက်ရန်ရေအနည်းငယ်ယူခဲ့ပါ။

၄။ အိမ်သားတို့သည်ရေခပ်သွားကြပြီ။

၅။ သိကြားမင်းသည်မိဘုရားကြီး၏သတိလွ
သောအဖြစ်ကိုသိ၍။စုတေ့အံ့သည့်ကို သိစိမ့်သော
နှစ်ဂါထာဖြင့်ဆို၏။

၆။ ကျွန်ုပ်စီးရန်မြင်းတကောင်ယူခဲ့ပါ။

၇။ ဤမြင်းသည်စီးရန်မကောင်း။

၈။ ဤမြင်းကိုငါတို့စီးရန်မကောင်း။

၉။ ဇမ္ဗူဒိပ် ကျွန်း အပြင်၌ နေကုန် သော ထီးဆောင်းမင်းတို့သည်ပဏ္ဏာလက်ဆောင် များစွာဆက်သလာ၏။

၁၀။ ကျွန်ုပ်၏သားကို ကျောင်းသို့ အသင်အကြားဖွတ်လိုက်သည်။

၁၁။ သင်၌ငါအမျက်ထွက်ရန် အခွင့်တစိုးတစိမျှမရှိ။

၁၂။ ဤသစ်သီးသည်စားရန်ကောင်းသည်။

၁၃။ ဤသစ်သီးကိုငါတို့စားရန်မကောင်း။

၁၄။ အကျွန်ုပ် တို့ကို ယဇ်ပူဇော် ခြင်း၌ သတ်တော်မမူပါနှင့်။

၁၅။ ဆရာစဏ္ဍာလသည်ငါ၏အထံသို့ခစားလာလတံ့။

၁၆။ မင်းမရှိသောပြည်မည်သည်ကား ရန်သူးရန်ပြောင့်တို့ကိုတားမြစ်စေခြင်းငှာမတတ်နိုင်ရာ။

၁၇။ ဤလိပ်ကိုယမုနာမြစ်စဲ၌ချခြင်းငှာထိုက်၏။

၁၈။ ထိုအစာကိုစားခြင်းငှာလျှောက်ပတ်၏။

၁၉။ ဤမြေကြီးတုန်လှုပ်သည်ကား။ အရှင်မင်းကြီးအားတည်ထားစိမ့်သောငှာ တုန်လှုပ်သည်မဟုတ်။ အရှင်မင်းကြီးအား များစွာသော ပြုဘွယ် ကိစ္စ ရှိသေးသည်။

၂၀။ ငါသည်အထီးကျန်သော မိဘတို့၏ အထံသို့ လက်ချည်းသွားအံ့သောငှာမသင့်ချေ။

၂၁။ ရှင်ရသေ့တို့အားလုပ်ကျွေးစိမ့်သောငှါ။ သားကိုရစိမ့်သောငှာအပ်၏။

၂၂။ သူသည်ငါ့အားထမင်းကိုပေးမည်လာသည်။

---

## အခန်း—၅

### ၃၄။ ကြိယာဝိသေသန။

အချို့သောဥပမာဏကြိယာဝိသေသနတို့ကို။ ကြိယာတခု၏ အဓိပ္ပါယ်ကို အထူးပြုရန် သုံးသောအခါ။ ၎င်းကြိယာကိုတဖန်ထပ်၍ ဆိုရသည်။

ဥပမာကား။

(၁) စားပါ။

(၂) (စား)သာစားပါ။

သာ ဟူသောပမာဏကြိယာဝိသေသနရှေ့၌ရှိသော စား သည့်ပုဒ်အပိုမှသာ ဖြစ်သည်။ ရုပ်တွက်သော အခါ။သို့မဟုတ်သမ္ဗန္ဓာရုပ ရိန္ဒေဒ ပြုလုပ်သောအခါ။ ၎င်း ကြိယာပုဒ်အပိုကိုပယ်ရမည်။ကြိယာ နှစ်ခါ ထပ်သော် လည်းပြုခြင်း သဘော တခုတည်းသာ ရှိကြောင်းထင် ရှားသည်။

(၂) ဝါကျကို အောက်ပါ အ တိုင်း သမ္ဗန္ဓာ ရုပ ရိန္ဒေဒပြုလုပ်ရမည်။

သင်။ ကတ္တား။

စားပါ။ ဝါစက။

သာ။ ဝါစကယုတ္တိ(ပမာဏ)

---

၃၅။ ရုံ။မျှ။ကာစသောပမာဏ ကြိယာဝိသေသနတို့ ကို။ဝါကျရှိး၌ကြိယာ၏အဓိပ္ပါယ်ကို အထူးပြု ရန်သုံး သောအခါ။၎င်းကြိယာကိုနှစ်ခါဆိုရသည်။

ဥဒါဟရဏ်ကား။

(ကြည့်) ရုံကြည့်သည်။

(ကြား) မျှမကြားစဘူး။

၁၉။ ဝါကျကဏ္ဍနှစ်ရပ်ပါသော မိဿကဝါကျ၌ ကြိယာကိုနှစ်ခါဆိုရန်မလို။

ဥဒါဟရုဏ်ကား။

(က) တယောက်သွားယောက်ရှုသောခရီး။

(ခ) ကြည့်ရှုကိုသာမပြုနှင့်။

(ဂ) ရသမျှသောသစ်သီးများကိုသူငယ်တို့အား ပေး၏။

---

၁၇။ သမ္ဗန္ဓကြိယာဝိသေသန။

ကြိယာဝိသေသနတခုသည်ဝါကျကဏ္ဍ နှစ်ရပ်ကို ဆက်ရုံသာမက။ဝါကျတရပ်ရပ်၌ရှိသောဝါစင်္ဂတခုံတခု၏အဓိပ္ပါယ်ကိုလည်းအထူးပြုလုပ်လျှင်။ ၎င်းကြိယာဝိသေသနသည် __သမ္ဗန္ဓကြိယာဝိသေသန__ ဖြစ်သည်။

မှတ်ရန်။ ကြိယာဝိသေသန တခုကိုသမ္ဗန္ဓ အရာ၌သုံးသော်လည်း။၎င်းကြိယာဝိသေသန၏အဓိပ္ပါယ်သည် မပျက်ချေ။

(၁) ထိုမှာရှိသမျှသောသစ်ပင်များကိုခုတ်လိုက်။ ဤဝါကျ၌ __သမျှ__ သည် ကြိယာ ဝိသေသ နရှိးသာ ဖြစ်သည်။အဘယ်ကြောင့်နည်းဟူမူကား။ကြိယာဝိသေသ

နသည့်စကားပိုသာဖြစ်၍။ ၎င်းကိုပယ်သော်လည်းဝါကျအဓိပ္ပါယ်ပျက်သည်မဟုတ်။

(၁) ဝါကျ၌ရှိသောကြိယာဝိသေသနကိုပယ်လျှင်အောက်ပါဝါကျကိုရမည်။

(၂) ထိုမှာရှိသော သစ်ပင် များကို ခုတ်လိုက်။ ဤဝါကျများ၌ နာမဝိသေ သနဝါကျကဲ့သို့ ပါသည့် အထွက်သမ္ဗန္ဓမရှိ။

(က) သင်နှင့်နေရသမျှကာလပတ်လုံး ငါချမ်းသာမည်။

(ခ) သင်နှင့်နေရသည့် ကာလ ပတ်လုံး ငါချမ်းသာမည်။

(က) နှင့် (ခ) တို့၏ သဘောအဓိပ္ပါယ် ချင်းသည်ညီ၏။

ထိုကြောင့် သမျှ သည်ကြိယာဝိသေသနဖြစ်သည်။ ၎င်း(က)နှင့်(ခ)ဝါကျတို့၌ သမ္ဗန္ဓကား ကာလပတ်လုံး ဖြစ်သည်။

---

ကျွန်ုပ်သိသမျှပြောမည်။

ဤအချက်၌သမျှသည်သမ္ဗန္ဓကြိယာဝိသေသန ဖြစ်

သည်။သိသည်ဆိုသောကြိယာ၏အဓိပ္ပါယ်ကို အထူး ပြုလုပ်သည့်အပြင်။ဝါကျကဏ္ဍနှစ်ရပ်ကိုလည်း ဆက်သည်။ကြိယာဝိသေသနအရာ၌သုံးသည် အပြင်သမ္ဗန္ဓ၏အစားလည်းသုံးသော ကြောင့်။၎င်း သမျှ ကိုမပယ်နိုင်ချေ။

အခြားဥဒါဟရဏ်များ။

သူ ချက်ခြင်း လာသည်……………ကြိယာဝိသေ
 သန။
သူရောက် လျှင် ရောက် ခြင်း သေသည်…………
……သမ္ဗန္ဓကြိယာဝိသေသန။

ထိုတောင်ကိုဝင်္ကပါ ဟု ခေါ်သည်။…………
……ကြိယာ ဝိသေသန။
သူကသာမည်ဟု ပြောလိုက်သည်။…………
……သမ္ဗန္ဓကြိယာဝိသေသန။

---

လေ့ကျင့်ခန်း ၁၇။

မျှ ကိုသုံးနည်း။

အောက်၌ မျဉ်းသားထားသောပုဒ်တို့၏ ဝါစင်္ကို ဆော်ပြ၍ရှင်းလင်းလေ။

၁။ ဇမ္ဗူဒီပကျွန်းသည် တယောက်သွားလော်ရုံမျှ သောခရီးဖြင့်ရှေ့ရှုသွားလေ၏။

၂။ အရှင်မင်းကြီး။သစ်သီးသစ်မြစ် မျှ လောက်ပါ၏လော။

၃။ လူတစုံတယောက်ကို မျှ မမြင်ပါ။

၄။ သင်ကားအရွယ် မျှ ပြိုပြိုမရောက်ခင်။ သင့်လင်ကား။အရွယ်လွန်မြောက်ပြီ။

၅။ အိမ်၌ရှိ သမျှ သောရေအိုးတို့ကိုရေခပ်၍အပြည့်ထား၏။

၆။ မဒ္ဒီဒေဝီ သည်ရ သမျှ သော သစ်သီး သစ်မြစ်တို့ကိုတောင်း၌ထည့်၏။

၇။ သင်ပြေးနိုင် သမျှ ပြေးစမ်းပါ။

---

လေ့ကျင့်ခန်း ၁၀။

သော ကိုသုံးနည်း။

အောက်၌ မျဉ်းသားလျက်ထားသော ပုဒ်တို့သည်

မည့်သည့်ဝါစင်္ဂဖြစ်သည်။ သို့မဟုတ်မည်သည့်ဝါစင်္ဂ၏အင်္ဂါ အစိတ်အပိုင်းဖြစ်သည်ကို ရှင်းလင်းစွာဖော်ပြလော။

၁။ ချစ်သွီး။ မကြောက်နှင့်။တက် သာ တက်ပါ။

၂။ သင် သာ ငါကိုကျွန်ကဲ့သို့လုပ်ကျွေးအုံ။သင့်အိမ်မှာငါမနေပြီ။

၃။ တယောက် ကောင်းလို၍။ အပေါင်းဆင်းရဲမဖြစ် သာ။

၄။ အမှုကိုသိ သာ အောင်လျှောက်ထားပါ။

၅။ အရွယ် လွန်ပြီး သက်ကြီးအိုကို လင်လုပ်ရသော မိန်းမသည် သာ။ ဆင်းရဲတကာ တို့ထက်လွန်၍ဆင်းရဲ၏။

၆။ ကျွန်ုပ်ကို သာ ယုံကြည်ပါ။

၇။ ကျွန်ုပ် နှင့် သာ အတူနေပါ။

၈။ ကျွန်ုပ်ပြောသကဲ့သို့ သာ ကျင့်ဆောင်လျှင်။ အကျိုးခံစားရပါလိမ့်မည်။

၉။ သင်တို့ပင်ပန်း ရုံမျှသာ ရှိမည်။

## လေ့ကျင့်ခဏ်း ၂၀။

## ရာ ကိုသုံးနည်း။

အောက်ပါ မျဉ်းသားလျက် ထားသော ပုဒ်များ သည်မည်သည့်ဝါစင်္ဂဖြစ်သည်။ သို့မဟုတ်မည်သည့် ဝါစင်္ဂ၏အင်္ဂါအစိတ်အပိုင်းဖြစ်သည်ကိုအကြောင်းနှင့် တကွရှင်းလင်းစွာဘော်ပြလေ။

ရာ သည်သမ္ဗန္ဓဖြစ်လျှင်။ ၎င်း၏အမျိုးကို သချာစွာဘော်ပြလေ။

၁။ အဘယ်မဒ္ဒီ။ သင်ရှုစမ်းပါလော့ သင့်ခမည်း တော်၏စံ ရာ ဖြစ်သောစေတုတ္တရာနေပြည်တော်သည် အလွန်နှလုံးမွေ့လျော်ဘွယ်ရှိ၏။

၂။ ဘုရားလောင်းသည်မယ်တော် ခမည်းတော် တို့စံ ရာ နန်းပြသာဒ်ကိုရှုမျှော်တော်မူ၏။

၃။ ဇူဇကာပုဏ္ဏားသည်မင်းကြီးရှိ ရာ သို့သွား လေ၏။

၄။ သူသဘောရှိ ရာ ဇိုပါစေ။

၅။ ကျွန်ုပ်မနေ့က လမ်းလျှောက်သွား ရာ မြွေတ ကောင်ကိုမြင်သည်။

၆။ နောင်လာလတ့်သောဘေးကိုအဝေးကရှောင်ကြည့် ရာ ချေသည်။

၇။ ဤသူငယ်ကား။ မင်းကြီးဝေဿန္တရာ၏သားဖြစ် ရာ သည်။

၈။ ဤခရီးကို လိုက်၍ သွားလေသည် ရှိသော်။ မင်းကြီးဝေဿန္တရာ၏ နေတော်မူ ရာ ကျောင်းသင်္ခမ်းသို့ရောက်လတ့်။

၉။ ငါးလိပ်တို့၏မှီခို ရာ ဖြစ်သောမြစ်တို့သည် သင်္ခမ်းအနီး၌စီးကုန်၏။

၁၀။ ဆင်မြူ ရတနာသည် ကျွန်ုပ်တို့၏ ကိုးကွယ် ရာ တဆူလည်းဖြစ်ပေ၏။

၁၁။ ထိုဗုဒ္ဓသတိ မိဖုရားသည် ထူးမြတ် သောအသွေးအဆင်းဖြင့်။ယောက်ျားတကာမူးယစ်အောင်။ချစ်ဘွယ်သောမိန်းမ ရတနာပေါ်ထွန်း ရာ။ မဒ္ဒရာဇ်မင်း၏ မိဖုရားကြီးဝမ်း၌ဖြစ်လေ၏။

၁၂။ အမတ်သည်မင်းကြီးစံ ရာ သို့ရောက်လေ၏။

၁၃။ တောကြီးထဲ၌ နေရသဖြင့် အန္တရာယ်ဖြစ် ရာ ၏။

၁၄။ အရှင်မင်းကြီးသွား ရာ ဆဝါးခြေထပ်လိုက်ပါအံ့။

၁၅။ သင်စိတ်ရောက် ရာ ထိုက်တန်သောအရှင်ကိုရှာ၍ငါကဲ့သို့လုပ်ကျွေးရစ်။

၁၆။ ဤကလေးကိုသဘောရှိ ရာ မလုပ်စေနှင့်။

၁၇။ ပုဏ္ဏားသည်သဘောဖြောင့်ဖြောင့်လာသည့်မဟုတ် ရာ။

---

လေ့ကျင့်ခန်း ၂၁။

လျှင် ကိုသုံးနည်း။

အောက်ပါ မျဉ်းသားလျက် ထားသော ပုဒ်များ၏ ဝါစင်္ဂကိုအမျိုးအစားနှင့်တကွဘော်ပြလေ။

၁။ ထိုစကားကိုမင်းကြီး ကြားလျှင်၊ ဤသို့ဆို၏။

၂။ မိုးစင်းမရွာလျှင် သင့်အိမ်သို့ကျွန်ုပ်လာအံ့။

၃။ ကာဠုဒါယိထေရ်လျှင်ခရီးလမ်းညွှန်ရှိသည်ဖြစ်၍။ နှစ်သောင်း အရေအတွက်ရှိသော ရဟန္တာအပေါင်းခြံရံလျက် အသာ အယာ သွားခြင်းဖြင့် တရက်လျှင်တယူဇနာခရီနှစ်လတိုတိုင်ငင်ကြွတော်မူလေ၏။

၄။ သူသည် ကျွန်ုပ်ကိုမြင်လျှင် မြင်ခြင်း ထွက်ပြေးသည်။

၅။ သင်၏အရာကိုနှစ်သက်လျှင်ယူလော့။

၆။ ဇမ္ဗူဒီပကာ ပုဏ္ဏားသည် အလှူကို လျှင် မှည့်လည်ခံသဖြင့်။အသပြာတရာရ၏။

---

## လေ့ကျင့်ခန်း ၂၂။

### ၍ကိုသုံးနည်း။

အောက်၌မျဉ်း သားထားသောသမ္ဗန္ဓများ၏အမျိုးကိုဘော်ပြလေ။

၁။ သူသည်ကျွန်ုပ်အိမ်သို့လာ၍ထမင်း စားလိမ့်မည်။

၂။ သူသည် ညည့်အခါ သီချင်းဆို၍ သွားတတ်သည်။

၃။ စေတမုဆိုး သည်ခရီးကို ညွှန်ကြားလို၍ ဤသို့ဆို၏။

၄။ ဝင်္ကပါ တောင်သို့သွား၍။ နေ့လိမ့်အခဲ့ဟုဆို၍။ ပြည်ကိုလက်မခံပယ်တော်မူ၏။

၅။ ငါတို့အမျိုးသည် လင်ကို စေခိုင်း၍ ကျွန်ပြုသည့်အမျိုးမဟုတ်။

၆။ ဝဂ်ပါတောင်သို့ ကြွတော်မူ၍ အဘယ် အကျိုးရှိတော့မည်နည်း။

၇။ သူသည် ဆေးလိပ်သောက်၍ ဝဘတ်တတ်သည်။

၈။ မင်း သား မင်းသမီး တို့သည် ငိုမြည် တမ်း ၍ ပုဏ္ဏားနောက်သို့လိုက်ရလေ၏။

၉။ ဘုရားလောင်းသည်ရွှေတွင်ပင်လျှင်။ အငြိုးထားသောရန်သူကဲ့သို့။ ပုဏ္ဏားပုတ်ခတ်ညှဉ်းဆဲ ခြင်းကိုခံ ၍ လိုက် လေသော သားငယ် သမီးငယ်ကို မြင်၍ အောက်မေ့ကြင်နာခြင်းဖြင့် ပြင်းစွာနှိပ်စက်ရကား။ နှလုံးပူပန်ခြင်းဖြစ်၍။ကောသရောဇာခြသော် ဘမ်းမိသော ဆင်ပြောင်ကဲ့သို့။ ပြင်းစွာတုန် လှုပ်လျက် မသောက်မ တည်နိုင်သည်ဖြစ်၍။ ထိုင်နေရာမှထပြီးလျှင်။ ကျောင်းသခ်မ်းတွင်းသို့ဝင်၍ ဤသို့ငိုကြွေး၏။

## လေ့ကျင့်ခန်း ၂၃။

### ဖြစ်စေကိုသုံးနည်း။

အောက်၌မျဉ်းသား ထားသောသမ္ဗန္ဓများ၏အမျိုး ကိုဖော်ပြလေ။

၁။ ငှက်ပျောသီး ဖြစ်စေ။ အုန်းသီးဖြစ်စေ ဝယ်ခဲ့ပါ။

၂။ သင်လိုသည်ဖြစ်စေ။မလိုသည်ဖြစ်စေ။ဤစာအုပ်ကိုယူရမည်။

၃။ ယခုအမိန့်တော် ရှိတိုင်း ဘေးရန် များသည်ဖြစ်စေ။ထိုဘေးရန်ကိုသည်းခံလျက်လိုက်ပါအံ့။

ဖမျိုးအောင်စာ[illegible]
ရန်ကုန်မြို့။
မှတ်ပုံတင် ..............................
နေ့စွဲ ..............................